# လူဖြစ်ကျိုးနပ်ဖို့ သောတာပန်သို့

S.S ခင်မောင်အေး




လူသားတိုင်းအတွက် လမ်းဆုံလမ်းခွ

ဗုဒ္ဓနှစ် ၂၆၀၀ ပြည့်နှစ် ကြိုတင်ပူဇော်ခြင်းအထိမ်းအမှတ်

ဝိပဿနာဘာဝနာ အားမထုတ်သူ

ပုထုဇဉ်တို့၏ ဝဲဂယက်



ဘဝအောင်မြင်မှု အတက်နည်း

ဘဝအောင်မြင်မှု အကျများ




သုဂတိဘုံ ( လူ၊ နတ်၊ ဗြဟ္မာ ) မှာ နည်းနည်း၊

အပါယ် (၄) ဘုံသို့ ကျရောက်တာ အလွန်များ ။



အာ ဂုလ (အာတွမရှိ၊ အာဟုမရှိ၊ အာနိုင်းမရှိ) ၃၃ မြတ်စွာဘုရားရှင်၏ (အနီးစပ်ဆုံး) လက္ခဏာတော်
မြတ်စွာဘုရားရှင်၏ မျက်နှာတော်သည် လုံးဝန်းပြီး အနည်းငယ် ရှည်ရပါသည်။ နဖူးတော် ရှည်ခြင်း (မတို)၊ မျက်လုံးနှင့်မျက်ခုံးတော် (သာမန်လူတွေထက်) ကွာဝေးခြင်း၊ နှုတ်ခမ်းတော် ကျယ်ဝန်းခြင်း၊ ရွှေရောင်သင်းကျစ်တော်ပါရှိခြင်းတို့ကြောင့် မျက်နှာတော်သည် အနည်းငယ် ရှည်သယောင် ရှိရပါမည်။ အလွန်လုံးဝန်းခြင်းလည်းမရှိစေရ၊ အလွန်ရှည်မျောခြင်းလည်း မဖြစ်စေရ။ မျက်ခုံးတော်သည် မိန်းမလှတို့ကဲ့သို့ သေးမျှင်ခြင်း မဖြစ်နိုင်၊ ယောကျ်ား ရင့်မာတို့ကဲ့သို့လည်း ထူမျစ်ဖြောင့်စောင်းခြင်း မရှိရ၊ ထောင့်မချိုးရ၊ မျက်မှောင်ကြုတ်ခြင်းလည်း မရှိစေရ၊ မေတ္တာဓာတ် အပြည့်အဝဖြင့် အပေါ်သို့ (အနည်းငယ်) ပင့်နေပြီး ဖြောင့်စင်းကွေးညွတ်၊ မထူလွန်း မသေးလွန်း ဖြစ်ရပါသည်။ မျက်လုံးတော်သည် ယခင် တရုတ်၊ ဂျပန်တို့လိုလည်း မသေးမကျဉ်းရပါ။ မြန်မာတို့ထက်လည်း(အနည်းငယ်)ပို၍ကျယ်ဝန်းရပါမည်၊အိန္ဒိယလိုလည်း မပြူးကျယ်နိုင်ပေ။ မျက်တောင်တော်သည် ရှည်လျားကော့ညွတ်နေရပါမည်။နှာဘံတော်သည် တချို့အိန္ဒိယလူမျိုးလို မကောက်ရ၊ ယခင်တရုတ်လူမျိုး၊ ဂျပန်လူမျိုးတို့လိုလည်း မပြားပါရ။ မြန်မာလူမျိုးတို့ကဲ့သို့လည်း မလုံးရ၊ မတိုရ၊ မပွရ၊ ရွှေသွန်းသဏ္ဌာန်ဖြောင့်စင်းပြီးချွန်နေရပါမည်၊ (အနည်းငယ်) ရှည်လျားရမည်။ နှုတ်ခမ်းတော်သည် ယောကျ်ားရင့်မာကဲ့သို့ မပါးရ၊ မတင်းရ၊ အမျိုးသမီးတို့ကဲ့သို့လည်း ထူလုံး (ထော်လန်) မနေရ၊ မေတ္တာဓာတ် အပြည့်အဝရှိသော နီမြန်းသည့် နှုတ်ခမ်းအစုံ ဖြစ်ရမည်။ ကြွေမြေ့မဲ့သော အပြုံးမျိုးမဖြစ်စေရ။ တင်းစေ့ထားခြင်းလည်း မဖြစ်စေရ။
နားရွက်တော်သည် ပညာရှင်နားရွက်ကဲ့သို့ (အနည်းငယ်)ကြီးရပါမည်၊ မသေးရ၊ အဖျားရှည်ပြီး ကော့ညွတ်သယောင် ရှိရမည်။ ပခုံးအထိလည်း မရှည်ရ။ ဆံပင်တော်သည် ဖြောင့်စင်း စုလုံးနေရမည်။ မကောက်ကွေးရ။ ဥဏှောလုံ မွေးရှင်တော်သည် လက်ယာရစ်ရှိရမည်။ ငွေရောင်ကဲ့သို့ ဖြူလွင်ရမည်။ လည်တိုင်တော်သည် လည်ရစ် ( ၃ )ကြောင်းပါပြီး ရွှေမှုန်းစည်ကဲ့သို့ လုံးချောနေရပါမည်၊ မေးတော်သည် ( ၁၂ )ရက် လဆန်းကဲ့သို့ ဝိုင်းဝန်းနေရပါသည်။ မျက်နှာတော်နှင့်စာလျှင် ပခုံးတော်သည် (အနည်းငယ်) ကြီးမားကျယ်ဝန်းရပါမည်။ သာမန် လူလိုလည်း ကျုံလိုးမနေရ၊ ကြံ့ခိုင်ရပါမည်။

**မြတ်စွာဘုရား၊ ဖြစ်တော်မူပြီး၊ စိတ်တော်ဖြင့် ဥဒါန်းကျူးရင့်တော်မူခြင်း၊ (ဘုရား၊ အနေကဇာတင်)**

(၁) အနေကဇာတိသံသာရံ၊ သန္ဓာဝိဿံ အနိဗ္ဗိသံ၊ ဂဟကာရကံ ဂဝေသန္တော၊ ဒုက္ခာ ဇာတိ ပုနပ္ပုနံ။

(၂) ဂဟကာရက ဒိဋ္ဌောသိ၊ ပုန ဂေဟံ န ကာဟသိ။ သဗ္ဗာ တေ ဖာသုကာ ဘဂ္ဂါ၊ ဂဟကူဋံ ဝိသင်္ခတံ၊ ဝိသင်္ခါရ ဂတံ စိတ္တံ တဏှာနံ ခယမဇ္ဈဂါ။

(၁) ငါ၏ ဘဝသံသရာ အဖန်ဖန်အခါခါ ခန္ဓာအမြဲမပြတ်နိုင်အောင် ဇာတိဇရာ ဗျာဓိ မရဏာ ဒုက္ခအစုံဖြင့် တည်ဆောက်ခဲ့သော တဏှာယောကျ်ား၊ ဟယ် - လက်သမား! ငါသည် သင်၏ လက်ချက်ကို ပိုင်းခြားထင်ထင် လင်းထင်စွာ မြင်နိုင်စွမ်းသည့် သဗ္ဗညုတ ဉာဏ်မဟာကို မရသေးသည့်အတွက် ခန္ဓာငါးချက် ဒုက္ခစက်ကို ကြောက်လျက်ပင်လျှင် ငါပခင်တွယ်ပါဘဲ ဘဝသံသရာ ဝဋ်ရှားရဟတ်မှာ ပရပ်မနား၊ တဖားဖားဖြင့် ပြေးလွှားကျင်လည်ခဲ့ရ၏။

(၂) ယခုမူ ငါသည် သင်တဏှာယောကျ်ား၊ လက်သမား၏ လက်ချက်ကို တွေ့မြင်ခဲ့ရာ သဗ္ဗညုတ ရွှေဉာဏ်တော်ကို ရရှိခဲ့ပေပြီ။ ယခုအချိန်မှစ၍ သင်သည် ငါ့အတွက် ဘဝခန္ဓာအသစ် ထပ်မံ ဖြစ်အောင် လုပ်ဆောင်ခွင့်ရတော့မည် မဟုတ်ပေ။ ငါသည် သင်လက်သမား၊ တည်ဆောက်ခဲ့သော ခန္ဓာအိမ်၏ ထုပ်လျောက်နိုင်းများ၊ အခေါင်အထွတ်တို့ကို လေးမဂ်လျှံရှိန် ဉာဏ်သံလိမ်ဖြင့် နုတ်ဖြုတ် ဖြိုလှဲ ချလိုက်နိုင်ပေပြီ၊ ကိလေသာတရားတို့ကို ဝါသနာ အငွေ့အသက် မကျန်အောင် (စိမ် ညက်ညက် ကြေမွသွားအောင်) ပယ်ဖျက်ချနိုင်ခဲ့ပေပြီ။ ငါ၏စိတ်သည် သင်တဏှာလက်သမား၏ နယ်ပယ်မှ လုံးဝကင်းလွတ်သော မြတ်နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်ခဲ့ပေပြီ။ သုံးလောကထွတ်ထား ငါဘုရားသည် တဏှာမှ လွတ်ကင်းရာသို့ ကြည်သာဝမ်းမြောက် ဆိုက်ရောက်ခဲ့ပေပြီတကား။

ဗုဒ္ဓနှစ်( ၂၆၀၀ ) ပြည့်နှစ် = ( ၄၅-ဝါ + သာသနာနှစ် - ၂၅၅၅ )ကို အထိမ်းအမှတ်အဖြစ် ပူဇော်ပါသည်။ မြန်မာသက္ကရာဇ် ၁၃၇၃ ခု၊ ကဆုန်လပြည့်နေ့။ ခရစ်နှစ် - ၂၀၁၁ ခု၊ မေလ။

*Science Scholarship ဒီဇိုင်းအားး (မူပိုင်) DL 101E, IP (WIPO, Geneva)*

.......................................... အတွက်

.......................................... ၏ ဓမ္မဒါန

# လှူဖြစ်ကျိုး နိပ်ပို့
# ယောတာပနိသို့

S.S ခင်မောင်အေး ၏ တရားဓမ္မစေတီ



**အလှူတကာ့ အလှူမှာ**

ဓမ္မစေတီ (တရားဓမ္မပညာ) အလှူသည် အမြတ်ဆုံး ဖြစ်သည်ဟု (၁၅)ဝါမြောက် ဝါဆိုအပြီး သာဝတ္ထိပြည် ဇေတဝန်ကျောင်းတိုက်၌ သိကြားမင်း၏ ပြဿနာ (၄)ရပ်ကို ဖြေကြားတော်မူစဉ် မြတ်စွာဘုရားရှင်က ဟောကြားတော်မူခဲ့လေသည်။
(မဟာဗုဒ္ဓဝင်-စ-တွဲ-၂၅၃) (ဓမ္မပဒ-၄၊ ၂၊ စာ-၁၅၀)

# ပုံနှိပ်မှတ်တမ်း

| | | |
|---|---|---|
| ပထမအကြိမ် အုပ်ရေ | - | ၁၀,၀၀၀ |
| ထုတ်ဝေချိန် | - | ၂၀၀၉ ခု၊ ဒီဇင်ဘာလ |
| စာမူခွင့်ပြုချက်အမှတ် | - | ၁၁၉/၀၁ /(ပုံနှိပ်) သသန - ၀၉ |
| မျက်နှာဖုံးဒီဇိုင်းညွှန်ကြားသူ | - | ***S.S*** **ခင်မောင်အေး** (သဉ်ျာ) |
| Graphic | - | Swe Swe (Sein Nagar Film) |
| မျက်နှာဖုံးနှင့် အတွင်းပုံနှိပ် | - | ဒေါ်နွဲ့ကြည်<br>ပညာဗိမာန် ပုံနှိပ်တိုက် |
| တာဝန်ခံထုတ်ဝေသူ | - | သာသနာရေးဝန်ကြီးဌာန<br>(သာသနာရေးဦးစီးဌာန)<br>ပုံနှိပ်ထုတ်ဝေရေးဌာနခွဲ<br>ညွှန်ကြားရေးမှူး ဦးဝင်းနိုင် |
| မှတ်ပုံတင်အမှတ် | - | (၀၃၈၄၃/၀၂၄၀၅) ဖြင့်<br>ရိုက်နှိပ်ခွင့်ပြုသည်။ |
| တန်ဖိုး | - | ၃၀၀ ကျပ် |
| ဖြန့်ချိရေး | - | **ပညာဗိမာန်** စာအုပ်တိုက်<br>အမှတ်(၂၂၈)၊ ၃၉လမ်း(အထက်)၊<br>အနော်ရထာလမ်းထောင့်ချိုး၊<br>ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။<br>ဖုန်း - ၀၁ - ၂၅၃၁၄၃၊<br>၀၉ - ၅၁၃၆၇၄၆ |






# " လူဖြစ်ကျိုးနပ်ဖို့ " အမှာစာ

ပညာရေး၊ စီးပွားရေး၊ ကြီးပွားချမ်းသာရေး၊ အိမ်ထောင်ချမ်းမြေ့သာယာရေး... စသည့် သုခ၊ ဒုက္ခ မျိုးစုံတို့နှင့် လုံးချာလည်နေသူများ လူဖြစ်ကျိုးနပ်ဖို့ မိမိနှင့်သင့်လျော်သော တရားစခန်းမှာ တစ်ပတ်( ၇ )ရက်၊ (၉) ရက်၊ (၁၀)ရက်၊ (၁)လစသည်ဖြင့် ဝင်ဖြစ်အောင် ဝင်ကြည့်ရပါမည်။

ပုထုဇဉ်တိုင်း လောဘရှိ၊ ဒေါသရှိ၊ မောဟရှိ၊ မာနရှိတွေနှင့် ပြည့်နှက်နေ၏။ များများရှိနှင့် နည်းနည်းရှိသာ ကွာခြားကြ၏။ ထိုအရှိ ရောဂါတွေကို တရားစခန်းဆေးရုံမှာ သမထ ဝိပဿနာဆေးဖြင့် ကုသမှသာလျှင် သက်သာပျောက်ကင်းနိုင်ပေမည်။

ထို့ကြောင့် လူဖြစ်ကျိုးနပ်ဖို့ အရိယာစာမေးပွဲကို ဝင်ရောက်ဖြေဆိုကြည့်ရပါမည်။ လူဖြစ်လာပါလျက် တရားစခန်း မဝင်ဖြစ်ဘူးဆိုလျှင် (သောတာပန်နှင့် မနီးစပ်ပါလျှင်) လူဖြစ်ရှုံးရပါတော့မည်။ တရားစခန်းများကို ဝင်မည့်သူများ သိသင့်သိထိုက်သည့် အခြေခံ ပရိယတ္တိလိုအပ်ပါသည်။ ထိုပုဂ္ဂိုလ်များ မဖြစ်မနေ ကျင့်ရမည့် ကျင့်စဉ်အခြေခံ ပဋိပတ္တိကိုလည်း သိထားရပါမည်။

ယင်းတို့ကို အထောက်အပံ့ဖြစ်စေရန် လူသားတိုင်းအတွက် " **လူဖြစ်ကျိုးနပ်ဖို့ သောတာပန်သို့** " စာအုပ်ကို ကျွန်တော် ***S.S*** ခင်မောင်အေး က စာရေးဆရာ ဉာဏ်ပူဇော်ခ နှင့် စီစဉ်ညွှန်ကြားမှု လုပ်အားခတွေကို (ပါရမီအလှူအဖြစ်) ငွေကြေးအမြတ် လုံးဝမယူပါ။

စက္ကူဈေးနှင့် ဝန်ဆောင်စရိတ်အဖြစ် အရင်းဈေး (အလှူဈေး) ( ၃၀၀/- ) ကျပ်ဖြင့် စာအုပ်ဆိုင်တိုင်းမှာ ရနိုင်ပါပြီ။ စာအုပ် (၁၀၀)၊ (၂၀၀) . . . စသည်ဖြင့် လှူဒါန်းလိုပါက ဈေးနှုန်း အချိုသာဆုံး ( ၁၅၀/- ) နှုန်းဖြင့် စီစဉ်ပေးပါမည်။

မြန်မာသက္ကရာဇ် ( ၁၃၇၃ )ခု၊ ကဆုန်လပြည့်၊ ခရစ်နှစ် ( ၂၀၁၁ )ခု၊ မေလမှာ ဗုဒ္ဓမြတ်စွာဘုရားရှင် ပွင့်တော်မူချိန် ဗုဒ္ဓနှစ် ၂၆၀၀ ပြည့်နှစ် (ဗုဒ္ဓတရားဟောချိန် ၄၅ ဝါ + ဗုဒ္ဓပရိနိဗ္ဗာန်ပြုပြီး သာသနာတော်နှစ် ၂၅၅၅ ခု) ရောက်တော့မည် ဖြစ်ပါသည်။ ထိုကဲ့သို့သော ထောင်စု၊ ရာစုနှစ်တို့သို့ ရောက်တိုင်းရောက်တိုင်း ကျွတ်တမ်းဝင်-ဝင်သွားကြသည့် ခေတ်တွေသည် ဖြတ်သန်းသွားကြစမြဲပါ။ ထိုသို့ ကျွတ်တမ်းဝင်သွားကြသည့် (လူဖြစ်ကျိုးနပ်သွားကြသည့် သုဂတိဘုံသို့ ရောက်ရကျိုးနပ်ကြသည့်) လူတန်းစားထဲမှာ မိမိပါဝင်ဖို့ အထူးလိုအပ်နေပါပြီ။ လူဖြစ်ကျိုးနပ်ဖို့ ကြိုးစားသူတို့၏ နိုင်ငံ၊ နေရာ နယ်ပယ် တို့သည် အငြိမ်းချမ်းကြီး ငြိမ်းချမ်းပေတော့မည်။



S.S ခင်မောင်အေး



## မာတိကာ

လူသည် တိရစ္ဆာန်ထက် မြင့်မြတ်ရမည်။ လူသည် သက်ရှိသတ္တဝါတို့ အနက် အဆင့် အလွန်ကွာခြားလွန်းလောက်အောင် မြင့်မားလှသည်။ လူသည် မိမိထက် ကိုယ်ခန္ဓာ အဆမတန် ကြီးမားလှသော ဆင်ကိုပင် နိုင်းစေနိုင်၏။ လူသည် ကမ္ဘာမှာ အကြီးမားဆုံးသော ဝေလငါးသတ္တဝါကိုလည်း ဖမ်းဆီးနိုင်၏။ မိမိ၏ အမြင့်မှ ပျံသန်းနိုင်သော ငှက်သတ္တဝါကိုလည်း ကြိုက်သလို စီရင်နိုင်၏။ ထို့ကြောင့် လူ၏ အသိဉာဏ်ပညာကို မည်သည့်သတ္တဝါမျှ မယှဉ်နိုင်ပေ။ အသိဉာဏ်ရှိသော လူကသာ သက်ရှိသတ္တဝါ အားလုံးအပေါ် လွှမ်းမိုးနိုင်၏။

တိရစ္ဆာန်တို့သည် စားရေး၊ နေရေး၊ မေထုန်မှီဝဲရေး အသက်ရှင်ရေးတို့ကိုသာ စွမ်းဆောင်နိုင်သည်။ လူသည် စားရေး၊ နေရေး၊ ချစ်ရေး၊ ဝတ်ရေး၊ အသက်ရှည်ရေးဖြင့်သာ အချိန်ကုန်သွားလျှင် လူဖြစ်ကျိုးမနပ်နိုင်တော့ပေ။ တိရစ္ဆာန်နှင့်တန်းတူ ဖြစ်သွားပေတော့မည်။ လူသည် တိရစ္ဆာန်တို့ထက် အသိဉာဏ်ပညာ ကြီးမားသောကြောင့် အသိဉာဏ်ပညာကို အသုံးချတတ်မှသာ တိရစ္ဆာန်တို့ထက် သာလွန်ထူးမြတ်သော လူသားစင်စစ် ဖြစ်ပေမည်။

လူသားတိုင်းသည် မွေးလာပြီး အသိဉာဏ် အသုံးချတတ်ပြီဆိုကတည်းက ပညာသင်ကြားရသည်။ ပညာတတ်သူက ပညာမတတ်သူ၏ အထက်မှာ နေရ၏။ ပညာပိုတတ်သူက ပညာအတတ်နည်းသူထက် ပို၍ သက်သောင့်သက်သာ စီးပွားရှာနိုင်၏။ အတိတ်ကံ ဘယ်လောက်ကောင်းကောင်း ပညာဉာဏ်မရှိလျှင် လူဆင်းရဲ၊ စိတ်ဆင်းရဲ ၊ ဥစ္စာဆင်းရဲ -------- ဆင်းရဲမျိုးစုံနှင့်သာ နပမ်းလုံးနေရမည်။ အတိတ်ကံကောင်းပါက ပညာဉာဏ် ရှိလျှင်ရှိသလောက် လူချမ်းသာ၊ ဥစ္စာချမ်းသာ၏။ သို့သော် လောကီပညာ တတ်ရုံဖြင့် စိတ်ချမ်းသာ မည်ဟူ၍ကား မဆိုသာပေ။

ပညာမတတ်သူရော ပညာတတ်သူပါ စားဝတ်နေရေး၊ ချစ်ရေး အတွက် လုံးပမ်းနေရ၏။ ထိုအရေးတို့အတွက် ပညာရှာ၊ စီးပွားရှာ၊ ပြေလည် နေရရုံဖြင့်တော့ လူဖြစ်ကျိုးမနပ်နိုင်သေးပေ။ စိတ်မချမ်းသာနိုင်သေးပေ။

စားဝတ်နေရေး၊ ချစ်ရေးပြည့်စုံပြီး၊ စိတ်ဆင်းရဲနေရသည့် လူချမ်းသာတွေ တပုံတပင် များလှ၏။

ချမ်းသာသည့်အိမ်မှာ အမွေးခံရသည့် တိရစ္ဆာန်သည်လည်း စားရေး၊ နေရေး၊ ချစ်ရေး ပြည့်စုံစွာနေရ၏။ ဘာအလုပ်မျှတောင် လုပ်စရာမလိုပေ။ လူချမ်းသာကမှ စီးပွားရှာရသေး၏။ ထိန်းသိမ်းရသေး၏။ ပူပင်ကြောင့်ကြရသေး၏။ ထိုချမ်းသာသော တိရစ္ဆာန်မှာကား ပူပင်စရာမလိုတော့ ပို၍တောင်သာသေး၏။ ဆိုလိုသည်မှာ လူသည် တိရစ္ဆာန်ထက် ချမ်းသာလိုပါလျှင် လောကီပညာ စီးပွားပညာတို့အပြင် လောကုတ္တရာပညာ ချမ်းသာကြွယ်ဝ တတ်မြောက်မှသာ တိရစ္ဆာန်ထက် အဆင့်မြင့်ပေမည်။

တိရစ္ဆာန် လိုက်၍မမှီနိုင်သော ချမ်းသာမှုကို ရယူနိုင်မှသာ တိရစ္ဆာန်ထက်ပို၍ မြင့်မြတ်ပေမည်။ တိုက်ဘယ်နှစ်လုံး ကားဘယ်နှစ်စီးမက ချမ်းသာပြီး ထိုပိုင်ဆိုင်မှုတွေကို စိတ်မချဘဲသေသွားလျှင် လောဘစိတ်ဖြင့် သေမည်၊ စီးပွားပျက်ပြီး မကျေနပ်ပါက ဒေါသစိတ်ဖြင့်သေမည်၊ လောကုတ္တရာ အသိဉာဏ်မပြည့်စုံလျှင် မောဟစိတ်ဖြင့်သေမည်။ လောဘ၊ ဒေါသ၊ မောဟတို့ဖြင့်သေပါက အပါယ်(၄)ဘုံသို့ကျကာ ( ပြိတ္တာ၊ ငရဲ၊ တိရစ္ဆာန်) ဖြစ်သွားမည်။ ဤကဲ့သို့ လူတဝဖြစ်လာခြင်းသည် နှမြောစရာကောင်း၏။ ထို့ကြောင့် လူဖြစ်လာလျှင် လောကီပညာ၊ စီးပွားပညာ၊ စည်းစိမ်ဥစ္စာ ဘာတွေချမ်းသာချမ်းသာ လူဖြစ်ကျိုးမနပ်သေးပေ။ တိရစ္ဆာန်နှင့် အဆင့်ကွာလိုပါလျှင် လောကုတ္တရာပညာဉာဏ် တတ်မြောက်မှသာ အဆင့်မြင့်သည့် လူဖြစ်လာပေမည်။ လူဖြစ်လာပါလျက် အပါယ်(၄)ဘုံမှ လွတ်မြောက်နိုင်လောက်အောင် လောကုတ္တရာပညာ မတတ်လျှင် လူဖြစ်ကျိုးမနပ်တော့ပေ။ ''လူ'' ဖြစ်လာရခြင်းသည်ပင် အပါယ်(၄)ဘုံမှ လွတ်မြောက်အောင် ကြိုးစားဖို့ ဖြစ်လာရခြင်းသာ ဖြစ်၏။ အပါယ်(၄)ဘုံမှ လွတ်မြောက်ဖို့ အနိမ့်ဆုံး သောတာပန် ဖြစ်ရပါမည်။ သောတာပန်ဖြစ်ဖို့ မနီးစပ်လျှင် လူဖြစ်ကျိုးမနပ်ပေ။ တိရစ္ဆာန်နှင့် သိပ်မကွာလှပေ။



## သောတာပန်သည် လောကစံကို ခံနိုင်ရည်ရှိ၏

မြတ်စွာဘုရားရှင်၏ သာသနာတော်အတွင်း ''အလှူအတန်းမှာ မွေ့လျော်သူ တေဒဂ်ရ'' အနာထပိဏ်သူဌေးဆိုလျှင် ချမ်းသာသမှ ကျိုကျိုတက်ဖြစ်၏။ မြတ်စွာဘုရားရှင်အား ''ဇေတဝန်ကျောင်းတိုက်'' ဆောက်လုပ်လှူဒါန်းရန်''ဇေတ''မင်းသားထံမှ မြေကွက်ကို ရွှေဒင်္ဂါးပြား အပြည့်ခင်းပြီး ဝယ်ယူခဲ့နိုင်လောက်အောင် ချမ်းသာခဲ့၏။ ယခုခေတ် စတုရန်း'၁ပေ'ကွက်ကို ကျပ်ငွေသိန်းသောင်းဂဏန်းတန်ဖိုးတို့သည် သူ့အတွက် ရယ်စရာဖြစ်နေ၏၊ အဲသည်လောက်ချမ်းသာသော်လည်း ကံကြမ္မာအလှည့်အပြောင်းကြောင့် တစ်ချိန်တစ်ခါမှာ ရဟန်းသံဃာတော်များအား ဆွမ်းဟင်းလျာလှူရန် ခက်ခဲသွားသည့်အတွက် ပုန်းရည်ကြီးဟင်းလျာဖြင့်သာ ဆက်ကပ်ခဲ့ရဖူး၏၊ သို့သော် သောတာပန်ပုဂ္ဂိုလ်ကြီးဖြစ်သည့်အတွက် စိတ်ဓာတ်ကျမသွားပေ။ သူ၏အလှူဒါနကိုကား နောက်ဆုတ်မသွားပေ။ ရှိတာနှင့်သာ လှူရသော်လည်း အလှူအတန်းမှာ ရပ်တန့်မသွားပေ။ လက်တွန့်မသွားခဲ့ပေ။

## ပုထုဇဉ်လူသား၏ ကျရှုံးခန်း

မြတ်စွာဘုရားရှင် သာသနာတော်အတွင်းမှာ သီရိမဟာမဟာသောကမင်းလို သဒ္ဓါတရားထက်သန်သူ၊ အာဏာစက်ကျယ်ဝန်းသူ၊ ချမ်းသာကြွယ်ဝသူ၊ ပညာဉာဏ်ကြီးစွာဖြင့် လှူဒါန်းနိုင်ခဲ့သူ မရှိခဲ့ပေ။ ပြိုင်စံရှားဖြစ်ခဲ့၏။ ရေကန်တစ်ကန်၊ ရေတွင်းတစ်တွင်း၊ စေတီတစ်ဆူတည်ဖို့ ဆိုသည်မှာ သာမန်ချမ်းသာရုံဖြင့် တော်ရုံသဒ္ဓါတရားဖြင့် မလှူဒါန်းနိုင်ပေ၊ ရေတွင်းရေကန်ပေါင်း၊ စေတီပေါင်း (၈၄၀၀၀)စီ လှူဒါန်းနိုင်ခြင်းသည် ဗုဒ္ဓသာသနာသမိုင်းမှာ ပြိုင်စံရှားလောက်ပါပေ၏။ ဂေါတမမြတ်စွာဘုရားရှင်၏ အထိမ်းအမှတ်ပေါင်း မြောက်မြားစွာကို ထိုကျောက်မင်းကောင် မှတ်တိုင်ထူနိုင်ခဲ့ခြင်းကြောင့်လည်း ယခုခေတ် ဘုရားဖူးများအား ဗုဒ္ဓသာသနာသမိုင်းအတွက် အကျိုးထူးများရခဲ့၏။ သို့သော် သူသေခါနီးအချိန်မှာ ဆီးဖြူသီး (သျှစ်သျှားသီး) တစ်ခြမ်းသာ ဆေးအဖြစ် ပိုင်ဆိုင်ရသည့်အဆင့်အထိ

ဆင်းရဲသွား၏။ သူသည့် သောတာပန် မဖြစ်သည့်အတွက် စိတ်ဆင်းရဲစွာဖြင့် (ဒေါမနဿဖြင့်) ကွယ်လွန်ခဲ့ရရှာ၏။

## ပုထုဇဉ်တို့၏ သွားရာလမ်း

လူပုဂ္ဂိုလ်တို့၏ ငွေကြေး ဓန ၊အာဏာ ------ချမ်းသာမှု တို့သည် တရားကျစရာကောင်းလှ၏။ ဘယ်လောက်ပင် ဆင်းရဲနိမ့်လျော့ ကျသွားပါစေ၊ 'သောတာပန်' တို့မည်သည် စိတ်မဆင်းရဲ၊ စိတ်ဓာတ်မကျပေ။ ဘဝအလှည့်အပြောင်းဒဏ်ကို ခံနိုင်၏။ 'လောကဓံရှစ်ပါး'ဒဏ်ကို မကြောက်မရွံ့ပေ။ 'သောတာပန်' မဖြစ်သေးသူသည် 'လောကဓံတရား' ၏ အလှည့်အပြောင်းဒဏ်ကို မခံနိုင်ပေ။ လက်မြှောက်အရှုံးပေးကာ လောဘဖြင့်ဖြစ်စေ၊ ဒေါသဖြင့်ဖြစ်စေ၊ မောဟဖြင့်ဖြစ်စေ သေသွားကြရ၏။ လိုချင်တပ်မက်မှု (လောဘ) ဖြင့် သေသွားလျှင် ပြိတ္တာဖြစ်ရရှာ၏။ မကျေနပ်မှုများစွာ (ဒေါသ) ဖြင့် သေသွားပါက ငရဲကျရရှာ၏။ မသိနားမလည်မှု ၊ တွေဝေမှု၊ ကမ္ဘာလောကတစ်ခုလုံးရှိ သက်ရှိသက်မဲ့အားလုံးကို ဖွဲ့စည်းထားသည့် ရုပ်, နာမ်တို့ကို ခွဲခြားမသိဘဲ 'ပညတ် ပရမတ်' တို့ကို ခွဲခြားမသိဘဲ (မောဟ)ဖြင့် သေသွားပါက တိရစ္ဆာန် ဖြစ်သွားရရှာဦးမည်။ အယူ လွဲမှားသော ထောင်လွှားမောက်မာခြင်း (တလွဲမာန)ကြောင့် အသူရကာယ် ဖြစ်ကြရ၏။

## လိပ်ကန်းဥပမာ

ထို့ကဲ့သို့ ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ ၊ အသူရကာယ် ကျသွားပြီဆိုလျှင် သုဂတိဘုံကို ပြန်ရောက်ဖို့ ခဲယဉ်းတော့၏။ မြတ်စွာဘုရားရှင် ဟောကြားတော်မူသော 'ကာဏကစ္ဆပေါပမသုတ်' (လိပ်ကန်းဥပမာ)အရ ငရဲကျပြီးလျှင် သုဂတိဘုံ ပြန်ရောက်ဖို့ ဖြစ်နိုင်စွမ်း အလွန့်အလွန် ခဲယဉ်းလှ၏။ ပင်လယ်သမုဒ္ဒရာကြီးထဲမှာ သွားချင်ရာသွားနေသော လိပ်ကန်းကြီးတစ်ကောင်သည် ပင်လယ်ရေမျက်နှာ ပြင်ပေါ်သို့ နှစ်တစ်ရာကြာမှသာ တစ်ကြိမ်ပေါ်၏။ ထိုလိပ်ကန်းကြီး စွပ်နိုင်ရုံ လောက်သာ အပေါက်ရှိသည့် လှည်းထမ်းပိုးတစ်ခုကလည်း ပင်လယ်သမုဒ္ဒရာ



ကြီးမှာ မျောချင်ရာမျောနေ၏။ ပေ (၁၀၀) ပတ်လည်မှာ စွပ်မိဖို့ပင် အလွန်ခဲယဉ်း ဦးမည်။ သမုဒ္ဒရာရေမျက်နှာပြင် ဧရိယာစတုရန်းကီလိုမီတာ (အနီးဆုံး) ဘီလီယံပေါင်း (၃)သိန်းကျော်(= 357,712,790,162,121sq-km ) စတုရန်းမိုင်ပေါင်း 138,119,516,355,419(= စတုရန်းမိုင်ပေါင်း ဘီလီယံပေါင်း တစ်သိန်းကျော် ) × ( ၅၂၈၀ x ၅၂၈၀ စတုရန်းပေ) အကျယ်မှာ လိပ်ကန်းကြီး၏ ဦးခေါင်းနှင့် ထမ်းပိုးအပေါက် စွပ်မိဖို့ အဘယ်မျှအထိ ခက်ခဲမည်နည်း။ ဖြစ်နိုင်စွမ်း (possible ) အလွန်နည်း၏။ သုဂတိဘုံသို့ ရောက်နိုင်သူနှင့် အပါယ်(၄)ဘုံ ပြန်ကျနိုင်သူအချိုး (အနီးဆုံး) = ၁ း ဘီလီယံပေါင်း လေးကုဋေနီးပါး ရှိ၏။ ( 1:40,000,000,000, 000,000 )

ဆိုလိုသည်မှာ အပါယ်ငရဲကျပြီးပြီဆိုလျှင် သုဂတိဘုံသို့ ပြန်လည်ရောက်နိုင်ဖို့ အလွန်ခဲယဉ်းကြောင်း သင်္ချာကိန်းဂဏန်းဖြင့် နားမလည်နိုင်သေးသော ( လွန်ခဲ့သောနှစ်ပေါင်း ၂၅၀၀ကျော်က ) ပရိသတ်အား မြတ်စွာဘုရားရှင်က မြင်သာအောင် ဟောကြားတော်မူခဲ့၏။

## လက်သည်းခွံသုတ္တန်

သုဂတိဘုံ ( လူ့ဘုံ၊ နတ်ဘုံ၊ ဗြဟ္မာဘုံ ) ရောက်လာပြီဆိုလျှင်လည်း ငရဲပြည်မကျဖို့ အလွန့်အလွန် ခဲယဉ်းပြန်၏။ လူ့ဘုံရောက်လာပြန်၍ စားဝတ် နေရေး၊ ချစ်ရေးအတွက်သာ လုံးပမ်းနေရင်း သေသွားလျှင် လောဘ၊ဒေါသ၊ မောဟ၊ မာနမကင်းကြဘဲ အပါယ်ငရဲ ကျသွားသူတွေကသာ များလှ၏။ လောဘ၊ ဒေါသ၊ မောဟ၊ မာနတွေကို လျော့ပါးအောင် 'ဝိပဿနာ'တရားကျင့်ကြံနိုင် သူများသာ သုဂတိဘုံသို့ ပြန်လည်ရောက်ရှိကြရ၏။ ဘယ်လောက်ထိ များသလဲ ဆိုလျှင် မြတ်စွာဘုရားရှင်က 'နခသိခ' ( လက်သည်းခွံ ) သုတ္တန်မှာ ယခုလို ဟောပြောခဲ့၏။ လူ့ဘုံ ( သုဂတိဘုံ ) ရောက်လာသူထဲမှ လက်သည်းခွံပေါ်မှာ တင်ကျန်ရစ်သည့် မြေမှုန့်ပမာဏသာ သုဂတိဘုံသို့ ပြန်ရောက်ကြရ၏။ ကမ္ဘာမြေကြီးပေါ်ရှိ မြေမှုန့်ပမာဏ အားလုံးကတော့ အပါယ်ငရဲသို့သာ

ကျူကြရသည်ဟု ဗုဒ္ဓက ဟောကြားတော်မူခဲ့ပါသည်။

လက်သည်းခွံပေါ်မှာ တင်ကျန်နိုင်သည့် မြေမှုန့်ပမာဏနှင့် ကမ္ဘာမြေထုကြီး၌ မြေမှုန့်ပမာဏကို တွက်ချက်ကြည့်ရာ 2.6x $10^{29}$ ( ၂၆နောက်မှာ သုည ၂၈-လုံး ) ထိ အချိုးကွာခြားလှ၏။ သုဂတိဘုံသို့ ရောက်ရှိလာသော လူနတ် ဗြဟ္မာများနှင့် အပါယ်(၄)ဘုံကျရောက်ရသော အပါယ်ဘုံသားများ အချိုးသည် ၁ း ၂၆၀,၀၀၀,၀၀၀,၀၀၀,၀၀၀,၀၀၀,၀၀၀,၀၀၀,၀၀၀,၀၀၀ အထိရှိ၏။ အပါယ်ဘုံသားများ ဘယ်လောက်များကြောင်း ခန့်မှန်းနိုင်သည်။

## အပါယ် (၄)ဘုံမှာ မရေမတွက်နိုင်

သို့သော် လက်ရှိကမ္ဘာပေါ်မှာတင် သက်ရှိလူသားတို့သည် ယခုဆိုလျှင် သန်း( ၆၀၀၀ )ကျော်လာပြီ ဖြစ်၏။ လူဦးရေတွေက တဖြည်းဖြည်း တိုးလာသော်လည်း လူဖြစ်ကျိုးနပ်သူတွေ နည်းလှ၏။ လူစဉ်မမှီသူတွေ များလှ၏။ စားဝတ်နေရေး၊ ပြည့်စုံသော်လည်း အသိဉာဏ်မှီသူ ရုပ်နာမ်တို့၏ သဘောသဘာဝ ဖြစ်မှုပျက်မှု ပညတ် ၊ ပရမတ် ---------- စသည့် အခြေခံကို သိပြီးသူ၊ သေခြင်းတရားကို မကြောက်မရွံ့ဘဲ တရားဖြင့်သေသွားနိုင်သူ အလွန်နည်းပါးလှ၏။

သန်းပေါင်း ( ၆၀၀၀ )အနက် လူစဉ်မှီသူ အရေအတွက်သည် နည်းပါးလှ၏။ လူစဉ်မှီသူ လူဖြစ်ကျိုးနပ်သူထဲမှာ မိမိပါဖို့ လိုအပ်၏။ လူပေါင်းသန်း (၆၀၀၀)ကျော်သည် တိရစ္ဆာန်အရေအတွက်နှင့်စာလျှင်နည်းပါးလှပြန်၏။ လူတစ်ယောက်၏ ကိုယ်ခန္ဓာထဲမှ ပိုးမျိုး(၈၀)မက ရှိ၏။ ပိုးတစ်မျိုး တစ်မျိုးမှာပင် ရာထောင်သောင်း၊ သိန်းသန်းကုဋေမက ရှိကြ၏။ မိသားစုတစ်စုအိမ်မှာ ကြွက်၊ ပိုးဟပ်၊ အိမ်မြှောင်၊ ခြင်၊ ယင်၊ ဖြုတ်၊ ပုရွက်ဆိတ်၊ သာမန်မျက်စိဖြင့် မမြင်နိုင်သော ပိုးမွှားပေါင်း မြောက်မြားစွာ ရှိ၏။ လူတွေမနေသည့် တောတောင်ရေမြေမှာ ကုန်း၊ ရေ၊ လေ တိရစ္ဆာန်ပေါင်း များစွာရှိ၏။ လူတစ်ယောက် တစ်သက်စာ စားနိုင်သော ငါးကလေးတွေ သန်းချီပြီး ရှိနိုင်၏။ လူတွေဖမ်းမမိသော ငါးပေါင်း ကုဋေပေါင်းများစွာ ရှိ၏။ လူတွေနှင့် မနီးမဝေးမှာလည်း လူတွေမမြင်နိုင်၊ မကြားနိုင်သည့် သရဲတစ္ဆေ ပြိတ္တာတွေရှိ၏။ လူတွေနှင့်ဝေးရာ အခြားဘုံ ဌာနများမှာ



အသူရကာယ်၊ ငရဲတွေလည်း မရေမတွက်နိုင် ရှိကြ၏။ စကြဝဠာတစ်ခုလုံးမှာ သက်ရှိသတ္တဝါတွေ ရှိသေး၏။ လူသန်းပေါင်း ( ၆၀၀၀ ) ကျော်နှင့် စာလျှင် စကြဝဠာပေါင်း သိန်းသန်းကုဋေမက အနန္တ စကြဝဠာမှာရှိသည့် တိရစ္ဆာန်၊ အသူရကာယ်၊ ပြိတ္တာ၊ ငရဲပေါင်းသည် နှိုင်းယှဉ်၍ မရလောက်အောင် များလှ၏။ ထို့ကြောင့်ပင် မြတ်စွာဘုရားရှင်သည် လက်သည်းခွံပေါ် မြေမှုန့်တင်ကျန်သလောက်သာ သုဂတိဘုံ ရောက်ကြရကြောင်း ဟောကြားတော်မူခဲ့ခြင်း ဖြစ်ပေသည်။

## ဂင်္ဂါမြစ်မှ သဲစုမက

ကျွန်တော်တို့သည်'မြတ်စွာဘုရားရှင်၏ သာသနာတော်မှာ လူဖြစ်လာရခြင်း ဖြစ်ပါသည်။ ကျွန်တော်တို့၏ ဂေါတမမြတ်စွာဘုရားရှင်သည် ဘုရားလောင်းဘဝက လေးအသင်္ချေနှင့် ကမ္ဘာတစ်သိန်း ပါရမီဖြည့်ကျင့်ခဲ့ရ၏။ ထိုအချိန်အတွင်းမှာ (ဂေါတမမြတ်စွာဘုရား အပါအဝင်) ဘုရားရှင်ပေါင်း (၂၈)ဆူတိတိ ပွင့်တော်မူခဲ့၏။ ထိုဘုရားရှင်ပေါင်း (၂၈)ဆူ ပွင့်တော်မူခဲ့စဉ်က ကျွန်တော်တို့ ကျွတ်တမ်းမဝင်ခဲ့ကြရပါ။

မြတ်စွာဘုရားရှင်ပေါင်း (၂၈)ဆူသာ ပွင့်တော်မူခဲ့ခြင်း မဟုတ်သေးပါ။ ဟိုးယခင်အချိန်က ကမ္ဘာပေါင်း အသင်္ချေပေါင်း မြောက်မြားစွာမှာ ပွင့်ထွန်းခဲ့သော ဘုရားရှင်ပေါင်း၏ အရေအတွက်က များလွန်းလှ၍ ဂေါတမမြတ်စွာဘုရားရှင်သည် ကိန်းဂဏန်းဖြင့် မဟောခဲ့ပေ။ လွန်ခဲ့သောနှစ်ပေါင်း (၂၅၀၀)ကျော် (၂၆၀၀) နီးပါးက လူပုဂ္ဂိုလ်တွေသည် သင်္ချာပညာရပ်မှာ နိမ့်ပါးနေပါသေးသည်။ (သင်္ချာပညာရှင် 'ပိုက်သာဂိုးရပ်'သည်ပင် မွေးခါစသာ ရှိပါသေးသည်။) ထိုခေတ်က လူပရိသတ်များ နားလည်လွယ်အောင် ဤကဲ့သို့ ဟောကြားတော်မူခဲ့၏။ လွန်ခဲ့သော ကမ္ဘာပေါင်း အသင်္ချေပေါင်း မြောက်မြားစွာက ဘုရားရှင်ပေါင်း 'ဂင်္ဂါမြစ်ထဲမှ သဲစုမက' ပွင့်တော်မူခဲ့ကြောင်း ဟောပြောတော်မူခဲ့၏။ ထိုခေတ်က လူပရိသတ်များ နားလည်လွယ်သော အရေအတွက်ပင်ဖြစ်၏။ ယခုခေတ် သင်္ချာပညာရပ်အရ သဲပွင့်ပမာဏနှင့် ဂင်္ဂါမြစ်၏ အရှည်၊ အကျယ်၊ သဲထုတို့ကို

အကြမ်းဖျင်း တွက်ချက်ကြည့်ရာ ဂင်္ဂါမြစ်ထဲမှာ သဲပွင့်ပေါင်း ဘီလီယံပေါင်းကုဋေ ၈၀,၀၀၀ (၈၀၀,၀၀၀,၀၀၀,၀၀၀,၀၀၀,၀၀၀,၀၀၀)ခန့်ရှိ၏။ ထို့ကြောင့် ပွင့်တော်မူပြီးခဲ့သော မြတ်စွာဘုရားရှင်ပေါင်းသည် သန်းထောင်ပေါင်းကုဋေ ရှစ်သောင်းကျော် (မက) ရှိခဲ့၏။

## ငရဲပြည်မှာ အိမ်ပိုင်ယာပိုင်

ထိုထို ဘုရားရှင်ပေါင်း ပွင့်တော်မူခဲ့စဉ်က ကျွန်တော်တို့သည် ငရဲပြည်တွေမှာ ချိုး(ကျိုး)ကပ်နေကြ၍ ကျွတ်တမ်းမဝင်ခဲ့ကြခြင်း ဖြစ်သည်။ လူတိုင်းသည် ငရဲပြည်မကျဖူးသူမရှိခဲ့ပါ။ ဘုရားလောင်းသော်မှ နုစဉ်ခါက ငရဲပြည်ကို အကြိမ်ကြိမ် ကျခဲ့ရဖူးပါသည်။ ဘုရားလောင်း တေမိမင်းသားဘဝမှာ တိုင်းပြည်အုပ်ချုပ်ရသည့် ဘုရင်ဖြစ်ပါက အကုသိုလ်တွေ များလွန်းသည့်အတွက် ငရဲကို အကြိမ်ကြိမ်ကျခဲ့ရကြောင်း သိမြင်သောကြောင့် အလွန့်အလွန် ကြောက်ရွံ့ကာ စကားမပြောတတ်သည့် အ'အ'ယောင်ဆောင်ခဲ့ရ၏။ ဘုရားလောင်းပင် ဤကဲ့သို့ဖြစ်ရလျှင် ကျွန်တော်တို့ကဲ့သို့ (အနိမ့်ဆုံး) သောတာပန်လောင်းတွေ အနေဖြင့် ငရဲပြည်သည် အိမ်ပိုင်၊ ယာပိုင်ကဲ့သို့ ဖြစ်ခဲ့ကြုံခဲ့ကြရ၏။ လူ့ပြည်သုဂတိဘုံတို့သည် ခေတ္တခဏ လာရောက်လည်ပတ်ကြရသော ဧည့်သည်တမျှသာ ဖြစ်နိုင်ပါသည်။ ယခုကဲ့သို့ လူ့ပြည် အလည်အပတ် ရောက်စဉ်မှာ ကျွတ်တမ်းဝင်လျှင်ဝင် ၊ ကျွတ်တမ်းမဝင်လျှင် အိမ်ပိုင်ငရဲပြည်သို့သာ ပြန့်ပြန်ကျ နေရပါဦးမည်။

ယခု လူ့ပြည်ရောက်တုန်းရောက်ခိုက်၊ သောတာပန်လည်းမဖြစ်၊ သောတာပန်ဆုပန်ပြီး မကြိုးစားဘဲ (စူဠသောတာပန်ပင် မဖြစ်ဘဲ) သေသွားပါက ငရဲပြည်ကျရပါဦးမည်။ သီလစောင့်၊ အလှူအတန်း၊ ကောင်းမှုကုသိုလ်တွေ လုပ်ခဲ့လျှင် လူ့ပြည်၊ နတ်ပြည် ရောက်နိုင်ပါသည်။ သို့သော် ဝိပဿနာဘာဝနာကို ဉာဏ်စဉ်တက်လောက်အောင် အခြေခံ မပိုင်ခဲ့ပါလျှင် ကောင်းမှုကုသိုလ်ကံ အရှိန်အဟုန်ကုန်သွားပါက (တစ်သံသရာလုံးမှာ မှားခဲ့လေသော) မကောင်းမှု အကုသိုလ်ကံကြောင့် ငရဲပြည်သို့ ပြန်လျှောကျရစမြဲဖြစ်၏။ နတ်ပြည်၊ ဗြဟ္မာပြည်



ရောက်တိုင်း ကျွတ်တမ်းမဝင်နိုင်ပါ။ နတ်ပုထုဇဉ် ၊ ဗြဟ္မာပုထုဇဉ်တို့သည်လည်း ကုသိုလ်ကံ ကုန်သွားပါက ငရဲပြည်သို့ လျှောကျရစမြဲ ဖြစ်ပါသည်။ ထိုသို့ငရဲပြည် ပြန်ကျသွား ပါက 'လိပ်ကန်းကြီး' ဥပမာကဲ့သို့ သုဂတိဘုံ ပြန်ရောက်လာရန် ကမ္ဘာပေါင်း မြောက်မြားစွာ စောင့်ရပေတော့မည်။

## နိဗ္ဗာန်ကို ရောက်လိုပါသည်

ဗုဒ္ဓဘာသာဝင်တို့သည်"နိဗ္ဗာန်ကို ရက်တိုတိုဖြင့် ရောက်ရပါလို၏"ဟူ၍ ဆုတောင်းကြတာများ၏။ သို့သော် လူ့စည်းစိမ်ကိုသာ ရလိုကြသူများလှ၏။ တချို့လည်း နတ်စည်းစိမ်ကို မျှော်ကိုးကြ၏။ နိဗ္ဗာန်၏ သန္တိသုခကို မျှော်မှန်းနိုင်သူ နည်းပါး၏။ နိဗ္ဗာန်အကြောင်းကို ကလျာဏပုထုဇဉ်အသိမှ စူဠသောတာပန်အသိထိ ရောက်ရှိအောင် ကျင့်ကြံမှု အတိုင်းအတာတစ်ခုအထိ လိုအပ်ပါသည်။ နိဗ္ဗာန်အကြောင်းကို စာသိမှ အကျင့်သိအထိ ကြိုးစားနိုင်ပါမှသာ ပို၍ပို၍ စိတ်အား ထက်သန်ပေမည်။ နိဗ္ဗာန်ကိုရောက်ရှိဖို့ အနိမ့်ဆုံး စူဠသောတာပန်မှသည် မဟာသောတာပန်အဆင့်ထိ ရောက်ရှိဖို့က ပထမဆုံးခြေလှမ်း ဖြစ်ပါသည်။ မဟာသောတာပန် ဖြစ်ပြီးမှသာ သကဒါဂါမ်၊ အနာဂါမ်၊ ရဟန္တာအထိ အဆင့်ဆင့် ရောက်ရှိသွားပါမည်။ "နိဗ္ဗာန်ကို ရောက်လိုပါ၏။""ရောက်လိုပါ၏" ဟူ၍ ဆုတောင်းရုံဖြင့် မပြီးသေးပါ။ သာမန်ပုထုဇဉ် တစ်ယောက်အနေဖြင့် နိဗ္ဗာန်ကို နားလည်နိုင်စွမ်း နိမ့်ပါးပါသည်။ နိဗ္ဗာန်အကြောင်းကို သိမြင်နားလည်နိုင်စွမ်းရှိသော စူဠသောတာပန်မှသည် မဟာသောတာပန်အထိဖြစ်ရန် လိုအပ်ပါသည်။ ထို့ကြောင့် အနိမ့်ဆုံးအရိယာဖြစ်သော "သောတာပန် ဖြစ်လိုပါ၏၊ သောတာပန် ဖြစ်လိုပါ၏----" ဟူ၍ ကြိမ်ဖန်များစွာ ရင်ထဲ၊ အသည်းထဲ၊ နှလုံးသားထဲအထိ စိမ့်ဝင်နေလောက်အောင် ပုံတင်ထပ်နေမှသာ နိဗ္ဗာန်ကို ဦးတည်နိုင်ပေမည်။

## ဆန္ဒပြင်းပြမှ

သောတာပန်ဆုကို တောင်းရမှန်းမသိဘဲ တရားကျင့်ကြံနေသူများလည်း ရှိပါသည်။ တချို့ယောဂီများမှာ သောတာပန် ဖြစ်ချင်ပါသော်လည်း စိတ်အား

ထက်သန်မှု နည်းပါးကြ၏။ စိတ်အားထက်သန်မှု (ဆန္ဒာဓိပတိ) ကြီးမားလျှင် ကြီးမားသလောက် ဉာဏ်စဥ်ပို၍ တက်နိုင်ပါသည်။

မြတ်စွာဘုရားရှင်က ဗုဒ္ဓါနုဿတိကို အထူးပွားများဖို့ တိုက်တွန်းခြင်းမှာလည်း ဆန္ဒာဓိပတိကို တွန်းအားပေးခြင်းသာ ဖြစ်၏။ သောတာပန်ဖြစ်လိုသူ၏ နှလုံးသားထဲမှာ ဘုရားစေတီ ကိန်းဝပ်စေလိုခြင်းလည်း ဖြစ်၏။ ဆန္ဒာဓိပတိ ခေါင်တပ်ပြီဆိုမှသာ ဝီရိယာဓိပတိ (လုံ့လစိုက်ထုတ်မှု) စိတ္တာဓိပတိ ( စိတ်ဓာတ်ပြင်းထန်မှု )၊ ဝီမံသာဓိပတိ (အသိပညာ ဉာဏ်ထက်မြက်မှု)စသည်တို့သည် တစ်သီတစ်တန်းကြီး ဖြစ်ပေါ်လာမည်ဖြစ်၏။ အရိယာဖြစ်ရန် သောတာပန်မှသည် သာဝက၊ အဂ္ဂသာဝက၊ မဟာသာဝက၊ ပစ္စေကဗုဒ္ဓါ၊ ဗုဒ္ဓဘုရားဖြစ်ရန်ထိ ဆုပန်ခဲ့ရသည်ချည်းသာ ဖြစ်၏။ ဆုမပန်ဘဲ ဆန္ဒမပြင်းပြဘဲ အရိယာ ဖြစ်သွားသူ ဟူ၍ မရှိခဲ့ပေ။

## စာမေးပွဲဖြေဆိုရန် ရောက်လာတာ

လူဖြစ်လာခြင်းသည် သုဂတိဘုံကို ခဏရောက်လာခြင်း ဖြစ်သည်။ ထိုဘုံမှအပါယ်ငရဲကို လုံးဝလွတ်ကင်းနိုင်သည့် (အရိယာတန်းဝင်) စာမေးပွဲကို လာရောက်ဖြေဆိုကြခြင်း ဖြစ်ပါသည်၊ တချို့ဆိုလျှင် ထိုစာမေးပွဲကို ဖြေဆိုရမှန်းကို မသိကြဘဲ လူ့ဘဝ ဆုံးရှုံးသွားကြရ၏။ ထိုစာမေးပွဲမှာ ကျသွားလျှင်လည်းကောင်း၊ ဖြေရမှန်း မသိလိုက်လျှင်လည်းကောင်း၊ အပါယ်ငရဲဘုံသို့ ပြန်လည်ကျင်လည်ပြီး လိပ်ကန်းကြီးကဲ့သို့ ဝဲလှည့်ဝဲလည် နေရပါဦးမည်။ ထိုစာမေးပွဲမှာ (က)အဆင့်ဖြင့် အောင်သွားလျှင် မဟာသောတာပန် ဖြစ်သည့်အတွက် အပါယ်ငရဲ လုံးဝမကျရတော့ဘဲ အလွန်ဆုံး (၇)ဘဝထိ သုဂတိချမ်းသာဘုံများကို လှည့်လည်ခံစားပြီးမှ နိဗ္ဗာန်ရောက်ရှိသွားမည်။ (က) အဆင့်မမှီဘဲ (ခ)အဆင့်ဆိုလျှင် စူဠသောတာပန် ဖြစ်ကာ နောက်ဘဝ ထပ်မံကြိုးစားရပေဦးမည်။ (က)အဆင့်သာမက ဂုဏ်ထူးတွေဖြင့် အောင်မြင်ပါက သကဒါဂါမ်၊ အနာဂါမ်၊ ရဟန္တာအထိ အဆင့်မြင့်စွာ အရိယာဖြစ်ကာ နိဗ္ဗာန်သို့ လျင်မြန်စွာ ကူးပြောင်းနိုင်ပေမည်။



## ဆုလည်းတောင်းရမည်

သောတာပန်ဖြစ်ရန် ဆုတောင်းမှ ရမည်ဖြစ်ပါသည်။ ဆုတောင်းသည် ဆိုခြင်းမှာ သူများထံသွားပြီး တောင်းခြင်းမဟုတ်ပါ။ ကိုယ့်ကိုယ်ကို ကတိပေးခြင်း ဖြစ်ပါသည်။ ကိုယ်ဖြစ်ချင်တာကို ဆန္ဒာဓိပတိဆိုသော ပုံစံဖြစ်အောင် နှလုံးသားထဲကိုဝင်အောင် ရိုက်သွင်းခြင်း ဖြစ်ပါသည်။ လူတစ်ယောက်က ဆုတောင်းပတ္ထနာလည်းပြု၏။ သဒ္ဓါ ၊ သီလ၊ သုတ၊ စာဂ၊ ပညာဆိုသော တရား( ၅ )ပါးကိုလည်း ပြုကျင့်ပါသည်ဆိုလျှင် သူ၏လားရာဂတိလည်း မြဲပါသည်။ သူဖြစ်ချင်သော၊ တောင်းချင်သော ဆုလည်းပြည့်စုံပါမည်။ ပဲ့ကိုင်လည်းပါသည်၊ လှော်လည်း လှော်ခတ်သည်၊ ဦးတည်ချက်လည်း မှန်သည်ဆိုလျှင် ပန်းတိုင်သို့ ရောက်ပါမည်။

## ကြိုးလည်းကြိုးစားရမည်

တချို့က ဆုတော့တောင်းပါသည်။ ဖြစ်တော့ဖြစ်ချင်သည်၊ လိုတော့ လိုချင်သည်။ သဒ္ဓါတရားလည်းနည်းပါး၊ စာဂလည်းမရှိ၊ ပညာလည်းမကြိုးစား၊ ဝီရိယလည်းမပါဘူးဆိုလျှင် ဘယ်လိုမှမရနိုင်ပါ။ 'ဆု'ဆိုတာ တောင်းရပါမည်။ ဆုတောင်းခြင်းသည် ပဲ့ကိုင်ခြင်းပင် ဖြစ်သည်။ ဘယ်ကိုသွားချင်ပါသည်ဆိုသော ပဲ့လေးနှင့် ဦးတည်ချက်ကို ရည်ရွယ်လိုက်ခြင်း ဖြစ်ပါသည်။ တချို့က လှော်ရုံသာ လှော်ခတ်သည်။ ပဲ့လည်းမပါ ဦးတည်ချက်လည်း မရှိသည့်အခါ ဝဲဂယက်လည် နေသလို ရောက်ချင်ရာရောက်၊ ပေါက်ချင်ရာပေါက်၊ ကပ်ချင်သည့်နေရာကပ်၊ ခွာချင်သည့်နေရာမှာ ခွာ၏။ ဦးတည်ချက် မပီပြင်သည့်အခါမှာ လိုချင်သည့် ပန်းတိုင်ကို မရောက်နိုင်ပါ။ ဆုတောင်းခြင်းသည် ပဲ့ကိုင်လိုက်ခြင်းပင် ဖြစ်သည်။ ဦးတည်ချက်ကို အတည်တကျ လုပ်လိုက်ခြင်းဖြစ်သည်။ ဘုရားရှေ့မှာ (ဆုတောင်းသည်)[၂] ဟု အကြိမ်ကြိမ်ဆုတောင်းနေရုံဖြင့် ရပ်နေ၍မရနိုင်ပါ။ မိမိက ဝီရိယလည်း ရှိရမည်။ ပညာလည်း လေ့လာရမည်။ ကျင့်ကြံမှုလည်း ပြင်းထန်စွာ လုပ်ရမည်။ သို့မှသာလျှင် မိမိလိုချင်သည့် ပန်းတိုင်ကိုရောက်ရှိနိုင်ပါမည်။

ဦးတည်ချက်မှန်စွာဖြင့် အဆက်မပြတ် ဆက်လက်ကြိုးစားသွားမည်

ဆိုလျှင် အရိယာဘက်ကမ်း၏ ပထမဆုံးပန်းတိုင်ဖြစ်သော သောတာပတ္တိမဂ်၊ သောတာပတ္တိဖိုလ်သည် မလွဲမသွေရောက်ရှိလာမည် ဖြစ်သည်။ ထို့ကြောင့် သောတာပတ္တိမဂ်သို့ လှမ်းဝင်နိုင်ရန်အတွက်သာ ကျွန်တော်တို့တစ်တွေသည် လူဖြစ်လာရခြင်း ဖြစ်သည်။ ဒီအချိန်မှာ မိမိကိုယ်ကို ဒွိဟိတ်၊ တိဟိတ်ဆိုပြီး ခွဲခြားမနေဘဲ ကျင့်ကြံရပါမည်။ လယ်တီဆရာတော်ဘုရားကြီး၏ ဗောဓိပက္ခိယ ဒီပနီ၌ ရေးသားထားသည်မှာ (၁) အိုနာသေဘေး သံသရာရေးကို မမြင်ဘဲ အပျော်တွေနှင့်အချိန်ကုန်နေခြင်း၊ (၂) မဂ်၊ဖိုလ်ရထိုက်သော ခေတ်ကာလ မဟုတ်ဟု ထင်မှတ်ခြင်း၊ (၃) ပါရမီအရင့်ကို စောင့်စားနေခြင်း၊ (၄) ယခုကာလရှိ သူတို့ကို ဒွိဟိတ်ပုဂ္ဂိုလ်များဟု ထင်မှတ်ခြင်း၊ (၅) အဓိပတိဖြစ်သော ရှေးရှေး ဆရာကြီးတို့ပင် မဖြစ်နိုင်ကြကုန်ဟု ဆန္ဒဥဿဟကို စွန့်ထားခြင်း အစရှိသည့် ဓမ္မန္တရာယ်တွေကို စွန့်ထားရပါမည်။ ယခုအခါ သာသနာနှင့် ကြုံကြိုက်ကြကုန်သော သူအပေါင်းတို့သည် ယခုဘဝ၌ပင် အပါယ်သံသရာမှ ကျွတ်ထိုက်လျှင်လည်း ကျွတ်စေရမည်။ မကျွတ်ထိုက်လျှင်လည်း နောက်ဘဝ၌ ကျွတ်လွတ်နိုင်ရန် သမထ၊ ဝိပဿနာ ပါရမီမျိုးစေ့ကို အောင်မြင်စွာ ရစေရမည်ဟု ထက်သန်သော ဆန္ဒ၊ ဝီရိယဖြင့် သမထအလုပ်၊ ဝိပဿနာအလုပ်များကို ယောကျ်ား၊ မိန်းမ အားထုတ်ကြမှသာ ဘဝအခြေအနေနှင့် လူဖြစ်ကျိုးနပ်ရန် ပြဆိုခဲ့သည်ဟု ရေးသားခဲ့ပါသည်။

**ဒွိဟိတ်ဆိုသည်မှာ** - လောဘ၊ ဒေါသနှစ်မျိုးကို အထိုက်အသင့် (အချိန်အခါအလိုက်) ထိန်းနိုင်သူ၊ မောဟ ကြီးမားသူ (ရုပ်၊ နာမ်၊ ပညတ်၊ ပရမတ်တို့ကို နားလည်နိုင်စွမ်းမရှိသူ၊ စိတ်မဝင်စားသူ ) ကို ခေါ်သည်။

**တိဟိတ်ဆိုသည်မှာ** - လောဘ၊ ဒေါသ၊ မောဟ နည်းနိုင်သမျှ နည်းအောင် ထိန်းနိုင်သူ၊ ရုပ်၊ နာမ်၊ ပညတ်၊ ပရမတ်တို့ကို ခွဲခြားနားလည်နိုင်စွမ်းရှိသူ ( စိတ်ဝင်တစားကြိုးစားသူ ) ကို ခေါ်သည်။

ထို့ကြောင့် မိမိကိုယ်မိမိ တိဟိတ်ပုဂ္ဂိုလ်ဟူ၍ ယုံကြည်မှုအပြည့်ဖြင့် နိုင်မာစွာ ဆုံးဖြတ်ချက်ချပြီး ကြိုးစားရပါမည်။ အကယ်၍ ဒွိဟိတ်ဖြစ်နေလျှင်သော်မှ



အကျိုးမယုတ်နိုင်ပါ။ နောင်ဘဝတွေအတွက် ပါရမီဖြည့်ပြီးသား ဖြစ်သွားနိုင်ပါမည်။ ယခု ဤတရားစာအုပ်ကို ဆက်၍ဖတ်နေသူသည် စဉ်းစားတွေးခေါ်ဉာဏ် (စိန္တာမယဉာဏ်) ရှိနေပြီဖြစ်သည့်အတွက် ဒွိဟိတ်မဟုတ်တော့ပေ။ တိဟိတ်ဖြစ်နေပေပြီ။

## ဒါနကို စတင်တည်ထောင်ပါ

တရားဘာဝနာ စတင်ကြိုးစားပွားများတော့မည်ဆိုလျှင် မိမိအတွက် အခြေခံအုတ်မြစ် ဖြစ်သည့် ဒါနကို စတင်ထူထောင်ရပါမည်။

ဒါနသည် လှူဒါန်းပေးကမ်း စွန့်ကြဲခြင်းဖြစ်၏။ ရွှေငွေဥစ္စာပစ္စည်းတွေကို လှူဒါန်းမှသာ ဒါနဟု ခေါ်ခြင်းမဟုတ်ပါ။ ပုညကြိယာဝတ္ထု (၁၀)ပါးမှာ ဤသို့ ပြဆိုထား၏။ ပတ္တိဒါန-မိမိပြုခဲ့သည့် ကုသိုလ်ကောင်းမှုတွေကို သူတစ်ပါးအား ဝမ်းမြောက်ဝမ်းသာဖြင့် အမျှပေးဝေလျှင်လည်း ဒါနအရာ မြောက်ပါသည်။ တစ်ဖန် ပတ္တာနုမောဒနာ-သူတစ်ပါး၏ ကောင်းမှုကုသိုလ်တွေကို အမျှပေးဝေသည့်အခါ ဝမ်းမြောက်ဝမ်းသာ သာဓုခေါ်လျှင်လည်း ဒါနမည်ပါသည်။ ဝေယျာဝစ္စကုသိုလ်-သူတစ်ပါး၏ ကုသိုလ်ကောင်းမှုမှာ စိတ်အားထက်သန်စွာဖြင့် လုပ်အားဒါန ပေးလှူလျှင်လည်း ရပါသည်။ ထိုလုပ်အားဒါနသည် သီလအရာပါ ထမြောက် စေကြောင်း ပုညကြိယာဝတ္ထု (၁၀)ပါးမှာ ပြဆိုထားပါသည်။

နောက်ဆုံးမိမိအိမ်မှ ဘုရားကျောင်းဆောင်ရှိ ရုပ်ပွားဆင်းတုတော်ကို သက်တော်ထင်ရှား မြတ်စွာဘုရားဟူ၍ ရည်စူးသတ်မှတ်ပြီး ယုံကြည်မှု သဒ္ဓါတရားတွေဖြင့် အမြဲမပြတ် ပန်း၊ ရေချမ်း၊ ဆီမီး၊ ဆွမ်း ဆက်ကပ်လျှင်လည်း ဒါနအရာ ရောက်ပါသည်။ ဒါနပါရမီ ဖြည့်စွမ်းပါမှ စားဝတ်နေရေးပြည့်စုံအောင် အထောက်အပံ့ဖြစ်စေပါမည်။ ဒါနမရှိခဲ့လျှင် သောတာပန် မဖြစ်မီစပ်ကြားမှာ လမ်းချော် တိမ်းပါးပြီး အပါယ်ငရဲကို ကျရောက်သွားနိုင်ပါသည်။ ယခုဘဝမှာ ပြည့်စုံနေသူများ သည် အတိတ်ဘဝက ဒါနတွေဖြည့်ခဲ့သူများ ဖြစ်ကြသည်။ ဒါနမဖြည့်ခဲ့လျှင် စားဝတ်နေမှု မပြည့်မစုံဖြစ်ကာ သီလတွေ ပျက်သုဉ်းသွားနိုင်ပါသည်။

## သီလဆောက်တည်ပါ

သီလဆိုသည်မှာ ကိုယ်နှုတ်ကို ကောင်းစွာစောင့်ထိန်းခြင်း ဖြစ်သည်။ လူတိုင်းသည် အနည်းဆုံး ငါးပါးသီလကို လုံခြုံအောင် စောင့်ထိန်းရပါမည်။ ငါးပါးသီလသည် စကြဝဠာမင်းတို့၏ အမိက လက်နက်လည်းဖြစ်ပါသည်။ တရားစခန်းတိုင်းမှာ အနည်းဆုံး (၈)ပါးသီလ စောင့်ထိန်းရပါသည်။ ထိုသို့ စောင့်ထိန်းရာမှာလည်း ဒုစရိုက်(၁၀)ပါး၊ သုစရိုက်(၁၀)ပါး ဟူ၍ ရှိ၏။ ဒုစရိုက်(၁၀)ပါးကို စောင့်ထိန်းရှောင်ကြဉ်လျှင် သုစရိုက်(၁၀)ပါး စောင့်ထိန်းပြီးသားဖြစ်၏။ ဒုစရိုက် (၁၀)ပါးကို ရှောင်ကြဉ်ရန်အတွက် မြတ်စွာဘုရားရှင် ဟောကြားတော်မူသော မင်္ဂလသုတ်မှာ လူမိုက်တို့နှင့်ဝေးစွာ ရှောင်ရှားရမည့်အချက်သည် နံပါတ်(၁) ဦးစားပေး အရေးကြီးလှ၏။ လူမိုက်များကို ဝေးစွာ မရှောင်ရှားပါက ဒုစရိုက် (၁၀)ပါးအားလုံး ကျူးလွန်ဖြစ်တော့၏။ ဒုစရိုက်(၁၀)ပါးမှာ ကာယဒုစရိုက်(၃)ပါး၊ ဝစီဒုစရိုက်(၄)ပါး၊ မနောဒုစရိုက်(၃)ပါး ပါ၏။

**ကာယဒုစရိုက် (၃) ပါး**

၁။ ပါဏာတိပါတ = သူ့အသက်သတ်မှု
၂။ အဒိန္နာဒါန = သူတစ်ပါးမပေးသည့်ပစ္စည်းကိုခိုးယူမှု
၃။ ကာမေသုမိစ္ဆာစာရ = သူတစ်ပါး၏ အိမ်ယာကို မှားယွင်းစွာ ပြစ်မှားမှု

**ဝစီဒုစရိုက် (၄) ပါး**

၁။ မုသာဝါဒ = လိမ်လည်ပြောဆိုမှု (သူတစ်ပါးအကျိုးယုတ်အောင်)
၂။ ပိသုဏာဝါစာ = ကုန်းတိုက်ကာ မိတ်ခွဲမှု
၃။ ဖရုသဝါစာ = ကြမ်းတမ်းစွာ ဆဲရေးမှု
၄။ သမ္ဖပ္ပလာပ = အနှစ်သာရမရှိသောစကားကို ပြောဆိုမှု

ထို ကာယဒုစရိုက်(၃)ပါး၊ ဝစီဒုစရိုက်(၄)ပါးတို့ကို သီလဖြင့် စောင့်ထိန်းလျှင် ကိုယ်နှုတ်တို့ကို စောင့်ထိန်းပြီးဖြစ်၏။



**မနောဒုစရိုက်(၃) ပါး**

၁။ အဘိဇ္ဈာ = သူများပိုင်ဆိုင်သော ဥစ္စာပစ္စည်းတွေကို လိုချင်မှု
၂။ ဗျာပါဒ = ကိုယ်နှင့်မတည့်သည့်သူတွေကို အသေတောင့်တမှု
၃။ မိစ္ဆာဒိဋ္ဌိ = အယူမှားမှု ( ကံ၊ ကံ၏အကျိုးကို မယုံကြည်မှု )

ထို မနောကံဒုစရိုက် (၃)ပါးကို သမထ၊ ဝိပဿနာတို့ဖြင့် စောင့်ထိန်းနိုင်မှ ရပါမည်။ သီလမနိုင်မာလျှင် သမာဓိ မထူထောင်နိုင်ပါ။ သမာဓိမှမရှိလျှင် နောက်တစ်ဆင့် ဝိပဿနာ မတက်နိုင်ပါ။ သမာဓိသည် ကိလေသာနီဝရဏတရားတွေကို ငြိမ်းစေတတ်ပါသည်။ (နီဝရဏ = ဈာန်မဂ်ဖိုလ်တရားတွေကို ပိတ်ပင်တားမြစ်တတ်သောတရား) ဓမ္မပဒပါဠိတော် ၊ ပါပဝဂ်မှာ "ပါပသ္မိံ ရမတိ မနော" (ပုထုဇဉ်တို့၏ စိတ်သည် မကောင်းမှု၌ မွေ့လျော်၏)ဟု မိန့်ဆိုထား၏။ စိတ်ကို မထိန်းသိမ်းဘဲ လွှတ်ထားမည်ဆိုလျှင် စိတ်သည် ကာမစ္ဆန္ဒနီဝရဏ–ကာမဂုဏ်အာရုံတွေမှာ မွေ့လျော်မည်။ ဗျာပါဒနီဝရဏ – ကိုယ်နှင့်မတည့်သောသူတွေအပေါ်မှာ ပြန်လည်ပြီး မြင်ယောင်ကာ ပျက်စီးစေလိုသည့် သဘောတွေဖြစ်နေမည်။ ထိနမိဒ္ဓနီဝရဏ – ကိုယ်တွေ စိတ်တွေ လေးလံထိုင်းမှိုင်းမည်။ ဥဒ္ဓစ္စကုက္ကုစ္စနီဝရဏ–စိတ်တွေသည် ပျံ့လွင့်ပြီး လုပ်ထားပြီးသော အကုသိုလ်တရားတွေအပေါ် နောင်တရ နေမည်။ မလုပ်ရသေးသော ကုသိုလ်တရားအပေါ်မှာ စိုးရိမ်ပူပန်ပြီး နှလုံးမသာမယာ ဖြစ်နေမည်။ ဝိစိကိစ္ဆာနီဝရဏ–ရတနာ( ၃ )ပါးနှင့် ကံ ကံ၏ အကျိုးတွေပေါ်မှာ ယုံမှားသံသယတွေ ဖြစ်နေမည်။ ထို့ကြောင့် မြတ်စွာဘုရားရှင်က "အတိတ်ကိုလည်း ပြန်မတွေးနဲ့ အနာဂတ်ကိုလည်း မကြံစည်နဲ့ ပစ္စုပ္ပန်တည့်တည့်မှာ စိတ်ကိုထားရမည်ဟု ဟောကြားခဲ့၏။ စိတ်ကို ပစ္စုပ္ပန်တည့်တည့်မှာ ထိန်းသိမ်းဖို့ အတွက် သမထ ဘာဝနာ၊ ဝိပဿနာ ဘာဝနာတွေကို ပွားများအားထုတ်ထား ရပါမည်။ ဤကဲ့သို့ အားထုတ်ထားမည်ဆိုလျှင် ရောဂါဝေဒနာ အပြင်းအထန် ဖိစီးနှိပ်စက်သည့်အချိန်၊ သေခါနီးအချိန်တွေမှာ ဒေါသဖြစ်နေသည့် အကုသိုလ်စိတ်တွေကို

ကုသိုလ်စိတ်ဖြစ်အောင် ကောင်းစွာ ထိန်းသိမ်းနိုင်မည် ဖြစ်သည်။

သမထ၊ဝိပဿနာ အလုပ်တွေကို အာသေဝနပစ္စည်းရအောင် ကြိမ်ဖန်များစွာ ထုံထားသောသူ၊ လေ့ကျင့်ထားသောသူတွေသည် မိမိစိတ်ကို လိုရာအာရုံသို့ ပြောင်းရွှေ့ယူနိုင်၏။ သေခါနီးအချိန်တွေမှာ အလွန်အရေးကြီး၏။ လားရာဂတိကောင်းစေရန် အထူးလေ့ကျင့် အားထုတ်ထားရပါမည်။ အထိန်းအကွပ်မရှိသော သစ်ရွက်ကလေးတွေသည် လေတိုက်တိုင်း ကြွေကျသည့်အခါ လွင့်ချင်ရာလွင့် ကျချင်ရာကျရပါသည်။ ထိုကဲ့သို့ပင် အထိန်းအကွပ်မရှိသော စိတ်သည် သွားချင်ရာ အာရုံတွေဆီသွားနေသည့်အတွက် အကုသိုလ်စိတ်တွေသာ အဖြစ်များတတ်ပါသည်၊ ထို့ကြောင့် သေခါနီး အကုသိုလ်စိတ်တွေသာ များနေလျှင် လားရာဂတိသည်လည်း ရောက်ချင်ရာရောက်နိုင်ပါသည်။ ထို့ကြောင့် ကောင်းသည့်လားရာဂတိ ရောက်နိုင်ဖို့၊ မြဲနိုင်ဖို့ သမထ၊ ဝိပဿနာတွေကိုသာ အပြင်းအထန် အားထုတ်ထားဖို့ လိုပါသည်။ ထို့ကြောင့် မိမိ၏ စရိုက်နှင့် ကိုက်ညီမည့် ကမ္မဋ္ဌာန်းရိပ်သာများ၊ ဆရာများထံမှာ သေချာနည်းခံပြီး လက်တွေ့ကျင့်ကြံရပါမည်။ မိမိသည် သမထမှ ဝိပဿနာထိ ကူးပြောင်းနိုင်ပြီး ဆက်လက်အားထုတ်မည်ဆိုလျှင် စူဠသောတာပန်မှ မဟာသောတာပန်အထိ ဖြစ်နိုင်ပါသည်။

ထိုသို့အားထုတ်ရာမှာ တရားအားထုတ်သူတွင် ရှိရမည့် အင်္ဂါတွေနှင့် မဂ်တား ဖိုလ်တား အန္တရာယ်တွေကိုလည်း သိထားသင့်ပါသည်။

**တရားအားထုတ်သူအတွက် အင်္ဂါ ၅-ပါး**

၁။ ယုံကြည်မှု (သဒ္ဓါ) တရားနှင့် ပြည့်စုံရပါမည်။

၂။ တရားအားထုတ်နိုင်စွမ်းသည့် ကျန်းမာရေးနှင့်လည်း ပြည့်စုံရပါမည်။

၃။ ဖြောင့်မတ်မှန်ကန်သော စိတ်ထားရှိရမည်။

၄။ အားထုတ်နိုင်သည့် ဝီရိယတရား ရှိရမည်။

၅။ ရုပ်နာမ်နှစ်ပါးကို ပိုင်းခြားသိမြင်နိုင်စွမ်းသော ပညာနှင့်လည်း ပြည့်စုံရပါမည်။ (ရူးနေသူ၊ ဉာဏ်ရည်အလွန်နိမ့်သူများ မဖြစ်နိုင်။)



**မဂ်တားဖိုလ်တား ကံကြီး( ၅ ) ပါး**

၁။ **ကမ္မန္တရာယ်** ။----။ အမိသတ်သူ ၊အဘသတ်သူ၊ ရဟန္တာသတ်သူ၊ ဘုရားရှင်အားသွေးစိမ်းတည်စေသူ၊ သံဃာကိုသင်းခွဲသူစသည့် ပဉ္စာနန္တရိယကံငါးပါး၊

၂။ **ကိလေသန္တရာယ်** ။----။ "ကောင်းမှု၊ မကောင်းမှုဟူသည်မရှိ၊ ထိုကောင်းမှု၊ မကောင်းမှုပြုလုပ်သော်လည်း အလကားပဲ"ဟု မြဲမြံစွာ ယူဆသော (၁) အကိရိယဒိဋ္ဌိ ။ "ကောင်းမှု မကောင်းမှုတို့၏ ကောင်းကျိုး၊ဆိုးကျိုး မပေါ်နိုင်" ဟု မြဲမြံစွာ ယူဆသော (၂) နတ္ထိကဒိဋ္ဌိ ။"ကောင်းကျိုး၊ဆိုးကျိုးဖြစ်ရန် ကောင်းမှု မကောင်းမှုဟူသော ကံအကြောင်းမရှိ အကြောင်းမရှိဘဲ အလိုလိုပင် ချမ်းသာကြဆင်းရဲကြသည်" ဟု မြဲမြံစွာယူဆသော (၃) အဟေတုကဒိဋ္ဌိ ။"ဤဒိဋ္ဌိကြီး (၃) မျိုး"သည် မစွန့်လွှတ်နိုင်အောင် မြဲမြံစွာဖြစ်လျှင် သေသည်နှင့် အပါယ်ငရဲသို့ ကျရောက်စေတတ်သောကြောင့် "နိယတမိစ္ဆာဒိဋ္ဌိ"မည်၏။ ဤဒိဋ္ဌိ (၃)မျိုးတွင် ပထမဒိဋ္ဌိဖြင့် အကြောင်းကိုပယ်၏။ (အကြောင်းကိုပယ်လျှင် အကျိုးကိုလည်း ပယ်ရာရောက်၏။) ဒုတိယဒိဋ္ဌိဖြင့် အကျိုးကိုပယ်၏ (အကျိုးပယ်ခြင်းသည်လည်း အကြောင်းကို ပယ်ရာရောက်၏။) တတိယဒိဋ္ဌိဖြင့် အကြောင်းအကျိုး (၂)ပါးလုံးကို ပယ်၏။

ခန္ဓာငါးပါးကို ပုဂ္ဂိုလ်၊ သတ္တဝါ၊ ငါ၊ သူတစ်ပါး၊ ယောက်ျား၊ မိန်းမဟု အယူစွဲသည့် သက္ကာယဒိဋ္ဌိ ။ ဒီဘဝရုပ်၊နာမ်တို့သည် နောင်ဘဝကို ပြောင်းသွားသည်ဟု အယူမှားသော သဿတဒိဋ္ဌိ ။ သတ္တဝါတို့သည် ဒီဘဝမှာပင်သေလျှင် ပြတ်သည်၊ နောက်ဘဝမရှိဟု ယူသော ဥစ္ဆေဒဒိဋ္ဌိ ။

၃။ **ဝိပါကန္တရာယ်** ။----။ နပုံး၊ ပဏ္ဍုက် ဥဘတောဗျည်းနှင့်ဒွိဟိတ် ပုဂ္ဂိုလ်များ။

၄။ **အရိယူပဝါဒန္တရာယ်** ။----။ အရိယာအားသိလျက် သို့မဟုတ် မသိဘဲ စွပ်စွဲ ဆဲရေးကဲ့ရဲ့ပြစ်မှားသူ ( တောင်းပန်က ကျေနိုင်ပါသည်။ )

၅။ **အာဏာဝီတိက္ကမန္တရာယ်** ။----။ ဝိနည်းသိက္ခာပုဒ်ကို ကျူးလွန်သော ရဟန်း ပါရာဇိက၊ သံဃာဒိသိသ်၊ ထုလ္လစ္စည်း၊ ပါစိတ် ၊ ပါဋိဒေသနီ၊ ဒုက္ကဋ၊ ဒုဗ္ဘာသီများသော

အာပတ် ( ၇ )ပုံ အနက် အသေးဆုံး ဒုက္ကဋ်အာပတ်ရှိလျှင်ပင် ဈာန်မဂ်ဖိုလ်ကို မရနိုင်ပါ။ ပါရာဇိကအာပတ်သည် ကုစား၍မရနိုင်၊ ကျန်အာပတ်များသည် ကုစား၍ရပါသည်။

၎င်းတို့သည် တရားအားထုတ်မည့်သူ သိရှိထားရမည့် အင်္ဂါတွေနှင့် မဂ်ဖိုလ် အန္တရာယ်တွေ ဖြစ်ပါသည်။ ထိုကဲ့သို့ တရားကျင့်ကြံရာမှာလည်း ရှေ့မှာပြောခဲ့သည့် အတိုင်း ဆုတစ်ခုခုကိုတောင်းပြီး ဖြည့်ကျင့်ရပါမည်။ ၎င်းဆုများသည်

၁။ **သမ္မာသမ္ဗုဒ္ဓဆု** ။——။ ပညာဓိကဘုရားလောင်းသည် ပါရမီ(၁၀)ပါး အပြား(၃၀)ကို ၄-အသင်္ချေနှင့်ကမ္ဘာတစ်သိန်း ဖြည့်ကျင့်ရ၏။ သဒ္ဓါဓိက ဘုရားလောင်းသည် ပါရမီ(၁၀)ပါး အပြား(၃၀)ကို ၈-အသင်္ချေနှင့်ကမ္ဘာတစ်သိန်း ဖြည့်ကျင့်ရ၏။ ဝီရိယာဓိကဘုရားလောင်းသည် ပါရမီ (၁၀)ပါး အပြား(၃၀)ကို ၁၆-အသင်္ချေနှင့်ကမ္ဘာတစ်သိန်း ဖြည့်ကျင့်ရ၏။

၂။ **ပစ္စေကဗုဒ္ဓါဆု** ။——။ ပါရမီ(၁၀)ပါး အပြား(၂၀)ကို ၂-အသင်္ချေနှင့်ကမ္ဘာ တစ်သိန်း ဖြည့်ကျင့်ရ၏။

၃။ **အဂ္ဂသာဝကဆု** ။——။ ပါရမီ(၁၀)ပါးကို ၁-အသင်္ချေနှင့်ကမ္ဘာတစ်သိန်း ဖြည့်ကျင့်ရ၏။

၄။ **မဟာသာဝကဆု** ။——။ ပါရမီ ၁၀-ပါးကို ကမ္ဘာတစ်သိန်း ဖြည့်ကျင့်ရ၏။

၅။ **ပကတိသာဝကဆု** ။——။ ပါရမီ ၁၀-ပါးကို ကမ္ဘာတစ်သိန်းအောက် ရှိုးရိုးဖြည့်ကျင့်ရုံဖြင့်ရ၏။ ( ၃၊၄၊၅ တို့သည် ကိုယ်အင်္ဂါနှင့် အသက်ကို စွန့်ရသည့် ပါရမီအပြား (၂၀) ဖြည့်ကျင့်ရန် မလိုပေ။ )

ပါရမီ = ပရမ + ဤ

= မြင့်မြတ်သူတို့၏ + လုပ်ငန်းစဉ်

**ပါရမီ (၁၀)ပါး ( သာဝကဆု ပန်သူများအတွက်)**

၁။ ဒါနပါရမီ = ပေးကမ်း လှူဒါန်း စွန့်ကြဲမှုကို ဖြည့်ကျင့်ခြင်း။

၂။ သီလပါရမီ = ငါးပါး၊ ရှစ်ပါး၊ ဆယ်ပါးသီလ စောင့်ထိန်းမှုကို ဖြည့်ကျင့်ခြင်း။



၃။ နေက္ခမ္မပါရမီ = ကာမဂုဏ်မှ ထွက်မြောက်မှုကို ဖြည့်ကျင့်ခြင်း။

၄။ ပညာပါရမီ = ဉာဏ်ပညာ တိုးပွားရင့်ကျက်မှုကို ဖြည့်ကျင့်ခြင်း။

၅။ ဝီရိယပါရမီ = ဖွဲ လုံ့လ စွမ်းပကားကြီးမားစေရန် ဖြည့်ကျင့်ခြင်း။

၆။ ခန္တီပါရမီ = သည်းခံခွင့်လွှတ်မှုကို ဖြည့်ကျင့်ခြင်း။

၇။ သစ္စာပါရမီ = အမှန်အတိုင်းပြောဆို၍ ပြောသည့်အတိုင်း လိုက်နာပြု ကျင့်မှုသစ္စာကို ဖြည့်ကျင့်ခြင်း။

၈။ အဓိဋ္ဌာန်ပါရမီ = စိတ်ဆုံးဖြတ်ထားသည့်အတိုင်း ခိုင်မြဲစွာ လိုက်နာ ကျင့်သုံးမှုကို ဖြည့်ကျင့်ခြင်း။

၉။ မေတ္တာပါရမီ = သတ္တဝါများကို မိမိနှင့်ထပ်တူ ချစ်ခင်စိတ်ထားရှိရန် ဖြည့်ကျင့်ခြင်း။

၁၀။ ဥပေက္ခာပါရမီ = ချစ်ခြင်း၊ မုန်းခြင်းမရှိ ကောင်းဆိုးနှစ်တန်ကို ခံနိုင်ရည်ရှိ စေရန် ဖြည့်ကျင့်ခြင်း။

**ပါရမီ (၁၀)ပါး၊ အပြား-၃၀**

ပါရမီ ၁၀-ပါးကို ထပ်ဆင့်၍ ဥပပါရမီ ၁၀-ပါး၊ ပရမတ္ထပါရမီ ၁၀-ပါး ပွားလျှင် ပါရမီ အပြား(၃၀) ဖြစ်၏။

(က) မိမိခန္ဓာကိုယ်နှင့် ဆက်စပ်မှုမရှိဘဲ သား၊မယား၊ ရွှေငွေ အစရှိသော သက်ရှိ သက်မဲ့ပစ္စည်းများကို စွန့်လွှတ်၍ ဖြည့်ကျင့်ခြင်းသည် မူလပါရမီ ၁၀-ပါး။

(ခ) ခြေ လက် စသော အင်္ဂါကြီးငယ် တစ်ခုခုကို စွန့်လွှတ်၍ ဖြည့်ကျင့်ခြင်းသည် ဥပပါရမီ။

(ဂ) အသက်ကိုပင် စွန့်လွှတ်၍ ဖြည့်ကျင့်ခြင်းသည် ပရမတ္ထပါရမီ။

မဂ်ဖိုလ်တရားတို့မှာ သောတာပတ္တိမဂ်သည် အခြေခံဖြစ်၏။ ပကတိ သာဝကဆုသည် သောတာပတ္တိမဂ်ရရန် အတိုဆုံးသော လမ်းကြောင်းဖြစ်သည်။ ထို့ကြောင့် ပကတိသာဝကဆုကို တောင်းပြီးမှ ပါရမီတွေ ဖြည့်ကျင့်ရပါမည်။

ပကတိသာဝက ပုဂ္ဂိုလ်တို့မှာ တရားနှင့် အံဝင်သွားပါက ယခုမှစ၍

အားထုတ်သွားလျှင် ခုနစ်ရက်အတွင်း၌လည်း ရနိုင်၏။ ထို့ထက်ပညာအစွမ်းရှိပါမူ အားထုတ်သောနေ့၌လည်း ရနိုင်ပါ၏။ ပညာအစွမ်းနုံ့လျှင် ခုနစ်လအတွင်း၌လည်းကောင်း၊ ယခုဘဝ သေခါနီးမှာလည်းကောင်း၊ ဒုတိယဘဝ၌သော်လည်းကောင်း ရနိုင်ပါသည်ဟု ( ဗုဒ္ဓဝင်ဋီကာ )မှာ ပြဆိုထားပါသည်။

**မဂ်ဖိုလ်နိဗ္ဗာန်၏** ပထမဦးဆုံးအဆင့်ဖြစ်သည့် သောတာပန်ဖြစ်လိုသော ပုဂ္ဂိုလ်တို့သည် သောတာပန်ဖြစ်ကြောင်း အင်္ဂါ၄-ပါးနှင့် ပြည့်စုံရပါမည်ဟု (ပါထေယျပါဠိတော်)မှာ ပြဆိုထားပါသည်။

၁။ မဂ်ဖိုလ်နှင့်ဆိုင်သည့် တရားတွေကို ဟောပြောလေ့ရှိသော သူတော်ကောင်းနှင့် တွေ့ဆုံပေါင်းဖော်ရမည်။ ( ထိုပုဂ္ဂိုလ်၏ စာအုပ်စာပေကို ရှာရမည်။ )
၂။ မဂ်ဖိုလ်နှင့်ဆိုင်သည့် တရားတွေကို နာကြားရမည်။(ထိုစာကို ဖတ်ရမည်။)
၃။ ကြားနာရသည့်အတိုင်း နှလုံးသွင်းမှန်ကန်ရမည်။ (ဖတ်ထားသည့်အတိုင်း)
၄။ နှလုံးသွင်းပြီး ဆက်လက်ကြိုးစား အားထုတ်သွားရမည်။

## ဗောဓိပက္ခိယတရား (၃၇) ပါး

သမထ၊ ဝိပဿနာတရားများကို အားထုတ်လိုသော သူတို့သည် မဖြစ်မနေ ထူထောင်အားထုတ်သင့်သော ဗောဓိပက္ခိယတရား (၃၇)ပါးကို အကျဉ်းမျှ သိသင့်ပါသည်။

ဗောဓိ = မဂ်ဉာဏ် ၊ ပက္ခိယ = အပေါင်းအစု

မဂ်ဉာဏ်၏ အကျိုးကို သယ်ပိုးဆောင်ရွက်တတ်သော တရားစုကို ဗောဓိပက္ခိယ မည်၏။ ဥပမာအနေဖြင့် ပြောရလျှင် လူတစ်ယောက်အတွက် ကိုယ်၊ လက်အင်္ဂါ အစိတ်အပိုင်းတွေ အရေးကြီးသကဲ့သို့ မဂ်ဉာဏ်ရဖို့အတွက် ဤတရားအစု အစိတ်အပိုင်းတွေသည် အရေးကြီးပါသည်။ ထို ( ၃၇ )ပါးကို လိုက်နာကျင့်ကြံလျှင် မဂ်ဉာဏ်ကို ကေန်ရမှာ ဖြစ်ပါသည်။

### ၁။ သတိပဋ္ဌာန် (၄)ပါး

သတိပဋ္ဌာန် ။——။ သက်ဆိုင်ရာ အာရုံထဲမှာ စွဲစွဲမြဲမြဲ သက်ဝင်တည်ရှိမှု၊



အာရုံ ၄-မျိုး၊ ယူပုံအခြင်းအရာ ၄-မျိုး၊ ပယ်ခွာခြင်းကိစ္စ ၄-မျိုး ကွဲခြင်းကြောင့် သတိပဋ္ဌာန် ၄-မျိုး ဖြစ်ရခြင်းဖြစ်သည်။

(၁) ကာယာနုပဿနာ သတိပဋ္ဌာန် ။——။ ဝင်သက်၊ ထွက်သက် (သို့) ၃၂-ကောဋ္ဌာသတို့၌ သတိကို ခိုင်မြဲစွာထားပြီး မတင့်တယ် ရွံရှာဖွယ်ဖြစ်သော အခြင်းအရာကို အဖန်ဖန်ရှုမှတ်ခြင်း ဖြစ်သည်။

သုဘဝိပလ္လာသ - တင့်တယ်သည်ဟု ဖေါက်ပြန်စွာသိမှုကို ပယ်ခွာနိုင်၏။

(၂) ဝေဒနာနုပဿနာ သတိပဋ္ဌာန် ။——။ ခံစားမှုသဘော ဝေဒနာတရားတို့ အပေါ်မှာ သတိကို ခိုင်မြဲစွာထားပြီး ဆင်းရဲသည့် ဒုက္ခအခြင်းအရာကို ထင်လာအောင် အဖန်ဖန် ရှုမှတ်ခြင်း ဖြစ်သည်။

သုခဝိပလ္လာသ - ချမ်းသာသည်ဟု ဖောက်ပြန်စွာသိမှုကို ပယ်ခွာနိုင်၏။

(၃) စိတ္တာနုပဿနာ သတိပဋ္ဌာန် ။——။ စိတ်ကိုအာရုံပြု၍ စိတ်တို့၏ မမြဲခြင်း အခြင်းအရာ ထင်လာအောင် အဖန်ဖန်ရှုတတ်သော သတိဖြစ်သည်။

နိစ္စဝိပလ္လာသ - မြဲသည်ဟု ဖောက်ပြန်စွာ သိမှုကို ပယ်ခွာနိုင်၏။

(၄) ဓမ္မာနုပဿနာ သတိပဋ္ဌာန် ။——။ ရုပ်၊ နာမ်တို့၏ ဖြစ်ပေါ်မှုသည် အတ္တကောင် (အသက်လိပ်ပြာဝိညာဉ်)မရှိ၊ ပရမတ္ထဓမ္မချည်းသာ သူ့သဘောသူဆောင်သည့်သဘော၊ အစိုးမရ အနတ္တအခြင်းအရာ ထင်လာအောင် အဖန်ဖန် ရှုတတ်သော သတိဖြစ်သည်။

အတ္တဝိပလ္လာသ - အတ္တရှိသည်ဟု ဖောက်ပြန်စွာသိမှုကို ပယ်ခွာနိုင်၏။

| | | | |
|---|---|---|---|
| အနိစ္စ | ဒုက္ခ | အနတ္တ | အသုဘ |
| စိတ္တာနုပဿနာ | ဝေဒနာနုပဿနာ | ဓမ္မာနုပဿနာ | ကာယာနုပဿနာ |

### ၂။ သမ္မပ္ပဓာန် (၄)ပါး

(၁) မိမိသန္တာန်မှာ ဖြစ်ပြီးသော အကုသိုလ်တရားတို့ကို ပယ်ရန်အားထုတ်ခြင်း၊ လုံ့လပြုခြင်း။

ပြုလုပ်ပြီး အကုသိုလ်များကို ပြန်၍ (နှလုံးမသွင်း) မစဉ်းစားဘဲ နေရမည်။

နောင် လုံးဝမလုပ်တော့ဘူးဟု ဆုံးဖြတ်ချက်ချသတိထားရမည်။ ဤသို့ပယ်ခြင်းသည် အကုသိုလ်ကံ ပျောက်မသွားပေ။ ရှေ့ဆက်ပြီး အကုသိုလ်မတိုးခြင်းသာ ဖြစ်သည်။ အကုသိုလ်တရားတွေကို မဂ်ဉာဏ်မှသာ အပြီးပယ်သတ်နိုင်သည်။

(၂) မိမိသန္တာန်မှာ မဖြစ်သေးသော အကုသိုလ်တရားတို့ကို မဖြစ်စေရန် အားထုတ်ခြင်း၊လုံ့လပြုခြင်း၊

(၃) မိမိသန္တာန်မှာ ဖြစ်ပြီးသော ကုသိုလ်ကိုတိုးပွားစေရန် အားထုတ်ခြင်း၊ လုံ့လပြုခြင်း။

(၄) မိမိသန္တာန်မှာ မဖြစ်သေးသော ကုသိုလ်ကိုဖြစ်ပေါ်လာရန် အားထုတ်ခြင်း၊ လုံ့လပြုခြင်း။

ထိုသို့ကြိုးစားရာမှာလည်း အရေသာကြွင်းပါစေ၊ အကြောသာ ကြွင်းပါစေ၊ အရိုးသာကြွင်းပါစေ၊ အသားအသွေး အကုန်ခန်းခြောက်ပါစေဆိုသည့် အင်္ဂါ ၄-ပါးနှင့်ပြည့်စုံသော လုံ့လဝီရိယဖြင့် ကြိုးစားအားထုတ်ရပါမည်။

## ၃။ ဣဒ္ဓိပါဒ် (၄)ပါး

ဣဒ္ဓိပါဒ် = ပြည့်စုံခြင်း၊ ပြီးစီးခြင်း အမျိုးမျိုး၏ အခြေခံတရား

(၁) ဆန္ဒိဒ္ဓိပါဒ် - လိုချင်မှု၊ ရချင်မှု၊ အလွန်အကြူးထက်သန်သော ဆန္ဒကြောင့် ကြိုးစားရင်း ပြီးပြည့်စုံမှု၊

(၂) ဝီရိယိဒ္ဓိပါဒ် - အရေ၊ အကြော၊ အရိုး၊ အသားအသွေး ခန်းခြောက်ပါစေ မလျော့သော လုံ့လဝီရိယဖြင့် ကြိုးစားရင်း ပြီးပြည့်စုံမှု၊

(၃) စိတ္တိဒ္ဓိပါဒ် - ထက်သန်နိုင်မာသော စိတ်စွမ်းအားကြောင့် ပြီးပြည့်စုံမှု၊

(၄) ဝီမံသိဒ္ဓိပါဒ် - ခက်ခဲနက်နဲသော တရားဓမ္မသဘာဝတို့၌ ပြန့်ပြူးစွာ ကျက်စားနိုင်သော ပညာကြောင့် ပြီးပြည့်စုံမှု၊

## ၄။ ဣန္ဒြေ ( ၅ )ပါး

ဣန္ဒြေ = စိတ်ကို အစိုးရနိုင်မှု

တရားဘာဝနာ အားထုတ်ရာ၌ ပျံ့လွင့်နေသော စိတ်တွေကို ဣန္ဒြေ



( ၅ )ပါးဖြင့် ( အစိုးရ ) ထိန်းချုပ်နိုင်ရပါမည်။

(၁) သဒ္ဓိန္ဒြေ = ယုံကြည်မှုဖြင့် စိတ်ကို အစိုးရခြင်း၊

(၂) ဝီရိယိန္ဒြေ = ဝီရိယဖြင့် စိတ်ကို အစိုးရခြင်း၊

(၃) သတိန္ဒြေ = သတိဖြင့် စိတ်ကို အစိုးရခြင်း၊

(၄) သမာဓိန္ဒြေ = သမာဓိဖြင့် စိတ်ကို အစိုးရခြင်း၊

(၅) ပညိန္ဒြေ = ပညာဖြင့် စိတ်ကို အစိုးရခြင်း၊

## ၅။ ဗိုလ် ( ၅ )ပါး

ဗိုလ် = ဆန့်ကျင်ဘက်တရားတို့ကို တိုက်ဖျက်ဖိစီးတတ်သောတရား

ဣန္ဒြေ (၅)ပါးဖြင့် စိတ်ကို အစိုးရအောင်ပြု၍ ဗိုလ် (၅)ပါးဖြင့် ဆန့်ကျင်ဘက်တရားတွေကို တိုက်ဖျက်ရပါမည်။

(၁) သဒ္ဓါဗိုလ် = ယုံကြည်မှု သဒ္ဓါတရားဖြင့် ဆန့်ကျင်ဘက်တရားတို့ကို တိုက်ဖျက်ခြင်း၊

(၂) ဝီရိယဗိုလ် = ဝီရိယဖြင့် ဆန့်ကျင်ဘက်တရားတို့ကို တိုက်ဖျက်ခြင်း၊

(၃) သတိဗိုလ် = သတိဖြင့် ဆန့်ကျင်ဘက်တရားတို့ကို တိုက်ဖျက်ခြင်း၊

(၄) သမာဓိဗိုလ် = သမာဓိဖြင့် ဆန့်ကျင်ဘက်တရားတို့ကို တိုက်ဖျက်ခြင်း၊

(၅) ပညာဗိုလ် = ပညာဖြင့် ဆန့်ကျင်ဘက်တရားတို့ကို တိုက်ဖျက်ခြင်း၊

## ၆။ ဗောဇ္ဈင် (၇)ပါး

ဗောဇ္ဈင် = သစ္စာ ၄-ပါး မြတ်တရားတို့ကို သိမြင်ရန် မဂ်ဉာဏ်၏ အစိတ်အပိုင်း အတောင်အလက်

(၁) သတိသမ္ဗောဇ္ဈင် = မဂ်ဉာဏ်၏ အကြောင်းဖြစ်သော အောက်မေ့ခြင်း။

(၂) ဓမ္မဝိစယသမ္ဗောဇ္ဈင် = မဂ်ဉာဏ်၏ အကြောင်းဖြစ်သော တရားသဘောကို စူးစမ်းဆင်ခြင်ခြင်း၊

(၃) ဝီရိယသမ္ဗောဇ္ဈင် = မဂ်ဉာဏ်၏ အကြောင်းဖြစ်သော အားထုတ်ခြင်း။

(၄) ပီတိသမ္ဗောဇ္ဈင် = မဂ်ဉာဏ်၏ အကြောင်းဖြစ်သော နှစ်သက်ခြင်း။

(၅) ပဿဒ္ဓိသမ္ဗောဇ္ဈင် = မဂ်ဉာဏ်၏ အကြောင်းဖြစ်သော ကိုယ်စိတ်၏ ငြိမ်းချမ်းခြင်း။

(၆) သမာဓိသမ္ဗောဇ္ဈင် = မဂ်ဉာဏ်၏အကြောင်းဖြစ်သော တည်ကြည်ခြင်း။

(၇) ဥပေက္ခာသမ္ဗောဇ္ဈင် = မဂ်ဉာဏ်၏ အကြောင်းဖြစ်သော အညီအမျှရှုခြင်း။

၇။ မဂ္ဂင် (၈)ပါး

မဂ္ဂင် = ကိလေသာကို ပယ်သတ်ကြောင်း၊ နိဗ္ဗာန်သို့ရောက်ကြောင်း ဖြစ်သောတရားစု

(၁) သမ္မာဒိဋ္ဌိ = သစ္စာ ၄-ပါး၊ အလင်းတရားကို မှန်စွာသိမြင်ခြင်း။

သစ္စာ ၄-ပါး = ဒုက္ခသစ္စာ ၊ သမုဒယသစ္စာ ၊ နိရောဓသစ္စာ ၊မဂ္ဂသစ္စာ၊

**ဒုက္ခသစ္စာ** = ဆင်းရဲခြင်းအမှန်တရား ( သိ ရမည့်တရား )

ဘဝသစ်ဖြစ်ရခြင်း (ဇာတိ) ၊ အိုရခြင်း ၊ နာရခြင်း ၊ သေရခြင်း ၊ စိုးရိမ်ပူဆွေးရခြင်း၊ ငိုကြွေးရခြင်း၊ ကိုယ်ဆင်းရဲခြင်း၊ စိတ်ဆင်းရဲခြင်း၊ ပြင်းစွာပူပန်ရခြင်း၊ မချစ်မနှစ်သက်သောသူနှင့် အတူနေရခြင်း၊ ချစ်ခင်နှစ်သက်သောသူနှင့် ကွေကွင်းရခြင်းအစရှိသည့် ဆင်းရဲခြင်းအပေါင်း၊ သတ္တဝါတို့သည် ကိုယ်စိတ်နှလုံး မသာယာခြင်းကြောင့် ဖြစ်ပေါ်သည့်ဆင်းရဲပျော်ရွှင်မှုတွေနှင့် ပြည့်စုံနေရာမှ ရုတ်တရက် ပြောင်းလဲမှုတွေကြောင့် ဖြစ်ပေါ်လာသော ဆင်းရဲ၊ အားလုံးသော ဆင်းရဲတို့သည် မတည်မြဲ အစဉ်ဖောက်ပြန် ပြောင်းလဲနေသော ဒုက္ခတွေသာ ဖြစ်၏။ တစ်ဖန် ခန္ဓာငါးပါးအပေါ်မှာ ပုဂ္ဂိုလ်သတ္တဝါ ငါဟူ၍ စွဲမှတ်ယူနေသော ဆင်းရဲလည်း ရှိသေး၏။ ထိုဒုက္ခဆင်းရဲတွေ ဖြစ်ပေါ်ကြောင်းကို မြင်သောသူသည် ဆင်းရဲချုပ်ကြောင်း နိဗ္ဗာန်သို့ရောက်ကြောင်း အကျင့်ကိုလည်း မြင်ရမည်။

**သမုဒယသစ္စာ** = ဆင်းရဲဖြစ်ကြောင်း အမှန်တရား( ပယ် ရမည့်တရား )

ကာမတဏှာ = ကာမဂုဏ်၌ တပ်မက်စွဲလန်းခြင်း၊

ဘဝတဏှာ = ဘဝ၌ တပ်မက်စွဲလန်းခြင်း၊



ဝိဘဝတဏှာ = ဘဝပြတ်ခြင်း၌ တပ်မက်စွဲလန်းခြင်း၊

ထိုတဏှာ ၃-ပါးကြောင့် တစ်ဖန် ဘဝအသစ်တွေ ဖြစ်ပေါ်နေရသည့် ဆင်းရဲဖြစ်ကြောင်း အမှန်တရားတွေဖြစ်သည်။ ဘဝသစ်မဖြစ်ပေါ်ရန် သံသရာအလည် ရပ်ဖို့ ကြိုးစားရပါမည်။

**နိရောဓသစ္စာ** = ဆင်းရဲချုပ်ငြိမ်းခြင်း အမှန်တရား၊ ( ဆိုက် ရမည့်တရား)

ကိလေသာ အညစ်အကြေးမှန်သမျှကို စွန့်လွှတ်ခြင်း၊ တဏှာတို့ကို ငြိမ်းသတ်ခြင်း၊ ထိုကိလေသာ တဏှာမရှိခြင်းသည် ဆင်းရဲချုပ်ငြိမ်းရာ အမှန်တရားပင် ဖြစ်သည်။ မဂ္ဂင်ခရီးလမ်းကြောင်းအတိုင်း ကျင့်ကြံအားထုတ်ကာ သီလ သမာဓိပညာတို့နှင့် ပြည့်စုံလာပါလျှင် ဆင်းရဲချုပ်ငြိမ်းခြင်းသို့ အမှန်ရောက်ရှိနိုင်ပါသည်။

**မဂ္ဂသစ္စာ** = ဆင်းရဲချုပ်ငြိမ်းခြင်းသို့ ရောက်စေတတ် ညွှန်ပြသောလမ်းမှန်၊ အစွန်း၂-ပါးမှလွတ်သော နိဗ္ဗာန်သို့ ညွှန်ပြသော အလယ်လမ်းမှန်၊ အင်္ဂါ ၈-ပါး နှင့်ပြည့်စုံသော မဂ္ဂင်လမ်း၊ ( လမ်းမှန်ကို ပွား ရမည့်တရား )

(၂) သမ္မာသင်္ကပ္ပ = မှန်စွာကြံစည်ခြင်း၊

ဝဋ်ဒုက္ခမှထွက်မြောက်ကြောင်း အကြံအစည်၊ သတ္တဝါတို့ကို မပင်ပန်း မပျက်စီးစေလိုသော အကြံအစည်။

(၃) သမ္မာဝါစာ = မှန်စွာပြောဆိုခြင်း၊

ဝစီဒုစရိုက် ၄-ပါးမှ လွတ်ကင်းစင်ကြယ် ကြည်သိုဖွယ်ရှိသော ပြောဆိုမှု။

(၄) သမ္မာကမ္မန္တ = မှန်စွာပြုလုပ်ခြင်း၊

ကာယဒုစရိုက် ၃-ပါးမှ လွတ်ကင်းစင်ကြယ်သော ကာယကံပြုလုပ်ခြင်း။

(၅) သမ္မာအာဇီဝ = မှန်ကန်စွာ အသက်မွေးခြင်း၊

မှန်သောအမြင်၊ မှန်သောအကြံအစည်၊ မှန်သော ကာယကံ၊ ဝစီကံရှိသော သူများသည် ယုတ်ညံ့သော အသက်မွေးမှုများ မပြုလုပ်ခြင်း။

အဆိပ်၊ လက်နက်၊ လူ၊ အရက်၊ သားထွက်တိရစ္ဆာန်များကို မွေးမြူရောင်းချခြင်းမှ ရှောင်ကြဉ်ခြင်း။

(၆) သမ္မာဝါယာမ = မှန်စွာအားထုတ်ခြင်း၊
ကုသိုလ်တရားတို့ကို ခိုင်မြဲစေရန် စိတ်ကိုလုံ့လပြု အားထုတ်ချီးမြှောက် ဆောက်တည်ခြင်း။

(၇) သမ္မာသတိ = မှန်စွာအောက်မေ့ခြင်း၊
ကာယ ၊ဝေဒနာ၊ စိတ္တ ၊ ဓမ္မတို့ကို ရှုမှတ်ခြင်း သတိ ။

(၈) သမ္မာသမာဓိ = မှန်စွာတည်ကြည်ခြင်း၊
နီဝရဏတရားတို့ ကင်းဝေး၍ အဘိဇ္ဈာ ၊ ဗျာပါဒ၊ မိစ္ဆာဒိဋ္ဌိ မနောကံ ဒုစရိုက်များ ရှောင်ကြဉ်နိုင်ခြင်း။

၎င်းတို့သည် ဗောဓိပက္ခိယတရား ( ၃၇ )ပါး ကို အကျဉ်းမျှတင်ပြခြင်း ဖြစ်ပါသည်။ သမထ ဝိပဿနာတရား ထူထောင်ရာမှာ ၎င်းတရားတို့သည် အဓိက အရေးကြီးပါသည်။

## သမထဘာဝနာ

သမာဓိထူထောင်ရန် သမာဓိဘာဝနာမှာ အချိန်မရသော သူများသည် ဥပစာရသမာဓိ (ချာန်အနီးအနား)အထိ ထူထောင်ရပါသည်။ အချိန်လည်းရ၊ ပါရမီလည်းရင့်သူများသည် အပ္ပနာသမာဓိ (ချာန်တစ်ခုခုတိုင်အောင် ) ထူထောင်ပြီးမှ ဝိပဿနာဘက်ကို ကူးကြရပါသည်။ မြတ်စွာဘုရား သက်တော်ထင်ရှားရှိစဉ်က ခဏိကသမာဓိ ထူထောင်ပြီး ဝိပဿနာယာနိကနည်းဖြင့် ကျွတ်တမ်းဝင်သူတွေ များပါသည်။ တရားတော်ကို အကျဉ်းဟောရုံဖြင့် မဂ်ဖိုလ်ရခဲ့သည့် ဥဃ္ဃဋိတညု (ပထမတန်းစား) ပုဂ္ဂိုလ်၊ အကျယ်ဟောရုံဖြင့် မဂ်ဖိုလ်ရနိုင်သည့် ဝိပဉ္စိတညု (ဒုတိယတန်းစား) ပုဂ္ဂိုလ်တွေသည် ဘုရားလက်ထက်မှာကတည်းက ကုန်စင်သလောက် ရှိသွားပေပြီ။

ယခုခေတ် သာသနာ ၂၅၀၀ကျော် ကာလမှာ နေယျပုဂ္ဂိုလ် (တတိယတန်းစား) ပုဂ္ဂိုလ်အများစု ကျန်နေပါသေးသည်။ ထိုပုဂ္ဂိုလ်တို့သည် တရားတော်ကို အကျယ်ဝေဖန်၍ ဟောပြောခြင်းကို နာကြားပြီး လက်တွေ့ကျင့်ကြံမှ



မဂ်ဖိုလ်ဆိုက်မည့် သူများဖြစ်ကြသည်။ ထို့ကြောင့် သမာဓိဘာဝနာကို အတိုင်းအတာတစ်ခုထိ ထူထောင်ရပါမည်။ ထိုမှတစ်ဆင့် ခန္ဓာကိုယ်ကို အလိုရှိတိုင်း ကြည့်ရှုနိုင်မည့် ခဏိကသမာဓိ (သို့) ဥပစာရသမာဓိ (သို့) အပ္ပနာသမာဓိဖြင့် ဝိပဿနာဘာဝနာ ပညာစခန်းကို ကူးပြောင်းရပါမည်။

## ဝိပဿနာဘာဝနာ

ဝိ = အထူး ၊ ပဿနာ = အဖန်ဖန် ရှုမှတ်ဆင်ခြင်ခြင်း၊ ဘာဝနာ = အကြိမ်ကြိမ်အဖန်ဖန် ပွားများခြင်း၊ ရုပ်နာမ်ခန္ဓာကို အနိစ္စ (မမြဲခြင်း) ၊ ဒုက္ခ (ဆင်းရဲခြင်း)၊ အနတ္တ (အစိုးမရခြင်း) လက္ခဏာရေးသုံးပါးဖြင့် အကြိမ်ကြိမ်အဖန်ဖန် ရှုမှတ် ဆင်ခြင်ခြင်း ဖြစ်သည်။

ဝိပဿနာဘာဝနာကို ထူထောင်ရာမှာ မိမိတို့ ပထမဦးစွာ သင်ကြားနာကြားထားသည့် သုတမယဉာဏ် ရှိရပါမည်။ မြတ်စွာဘုရားရှင်၏ ဂုဏ်တော်(၉)ပါး အဓိပ္ပာယ်ကို ကျေကျေညက်ညက် သိရှိရပါမည်။ (ထေရဝါဒ ဗုဒ္ဓသာသနာ စာအုပ်များမှာလည်း ပါရှိပြီးဖြစ်ပါသည်။) တရားတော်အကြောင်းတွေကိုလည်း မိမိလက်လှမ်းမှီသမျှ နာကြား (ဖတ်မှတ်) ထားရပါမည်။ သံဃာတော်၏ ဂုဏ်ကျေးဇူး (ဝိနည်းသိက္ခာတော်) တို့ကိုလည်း မိမိမှမ်းနိုင်သမျှ လေ့လာထားရန် လိုအပ်ပါသည်။ ("သောတာပန် ဆုပန်ချမ်းသာမှုစံ" စာအုပ်မှာ ဘုရား၊ တရား၊ သံဃာ ရတနာ သုံးပါး၏ ဂုဏ်တော်ကျေးဇူးတော်တို့ကို အထိုက်အသင့် ရှင်းပြပြီးဖြစ်ပါသည်။)

ထိုသင်ကြားထားသမျှတွေကို မိမိ၏ဉာဏ်ဖြင့် ကြံစည်တွေးတော ဆင်ခြင်ရသော စိန္တာမယဉာဏ်တို့ လိုအပ်ပါသည်။ ကြံစည်တွေးတော ဆင်ခြင်မှုတို့သည်လည်း ထေရဝါဒဗုဒ္ဓသာသနာတော်ဘောင်အတွင်းသာ ဖြစ်ရပါမည်။ မဟာယာနဆန်ဆန် ဘိုးတော်ယောင်ယောင် ချော်မသွားရန် အရေးကြီးပါသည်။ တခြားတခြား မိစ္ဆာဒိဋ္ဌိ အယူဝါဒတွေကိုတော့ လုံး၀ (လုံးဝ) ပုတ်ထုတ်နိုင်ရပါမည်။ မှန်ကန်သော **စိန္တာမယဉာဏ်** အားကောင်းလာလျှင် ဘာဝနာမယဉာဏ်၊ ဝိပဿနာဉာဏ် ပို၍ထက်မြက်လာပါမည်။

တရားစခန်းမှာဖြစ်စေ၊ ကိုယ်ပိုင်တရားကျင့်နေရင်းဖြစ်စေ နာမ်နှင့်ရုပ်ကို

တသိ မဟုတ်တဲ ကိုယ်တွေဉာဏ်ထင် ပိုင်းခြားသိမြင်လာလျှင် **နာမရူပပရိစ္ဆေဒဉာဏ်** ရောက်လာ၏။ နာမ်ဆိုသည်မှာ အာရုံဆီကို ပြေးသွားတတ်၊ ကိုင်းညွတ်တတ်၊ သိတတ်သည့်သဘော။ ရုပ်ဆိုသည်မှာ ပူ အေး မွ ရွ တောင့်တင်း ထုံကျင်ကိုက်ခဲ လေးလံမှုတွေဖြင့် ဖောက်ပြန်သည့်သဘော ပရမတ်တရားတွေကို ဉာဏ်ထဲမှာ ထင်မြင်လာပါမည်။ ရုပ်က ဖောက်ပြန်ပြ၍ သိတတ်သည့်နာမ်က သိပါသည်။ တစ်ခါ နာမ်က ရွေ့ချင်၊ ပြောင်းချင်၊ထိုင်ချင်၊ ထချင်၊သွားချင်၊ စားချင်မှုတွေ ဖြစ်လာလျှင် ရုပ်ခန္ဓာက တစ်ခုမကျန်အောင် ဆောင်ရွက်ပေးရ၏။ ရုပ်နှင့်နာမ်တို့ တစ်ခုနှင့်တစ်ခု ထောက်ပံ့သိမ်းဆည်း၍ ဖြစ်လာသော အကြောင်းတွေကို ဘယ်သူမျှ ဖန်ဆင်း၍ မရကြောင်း ဉာဏ်ထဲမှာ ထင်မြင်လာလျှင် **ပစ္စယပရိဂ္ဂဟဉာဏ်** ဖြစ်လာ၏ ။ ထိုဉာဏ်၂-ပါးပိုင်ပိုင်နိုင်နိုင်ကြီးပြည့်စုံလျှင် စူဠသောတာပန် (သောတာပန် အငယ်စား) ခေါ်ကြောင်းကို ဝိသုဒ္ဓိမဂ်အဋ္ဌကထာမှာ ဖွင့်ဆိုထားပါသည်။

ဤဉာဏ် ၂-ပါးကို အမှန်တကယ် ပိုင်ဆိုင်သွားပြီဆိုလျှင် သေလွန်ပါက အပါယ်မကျတော့ပါ။ ထို့ကြောင့် ထိုပုဂ္ဂိုလ်ကို သက်သာရာရသူ၊ ထောက်တည်ရာရှိသူ၊ ဂတိမြဲသူဟူ၍ ဆိုနိုင်ပါသည်။

ဤသို့ဖြင့် မလျှော့သောဇွဲ လုံ့လတို့ဖြင့် ဆက်လက်ကြိုးစား အားထုတ်သွားရပါမည်။ မိမိ၏ ပါရမီသည်လည်း အပြည့်အဝရောက်ရှိမည်ဆိုလျှင် ( ၇ ရက်၊ ၇ လ၊ ၇ နှစ် ) ဖြင့် မဂ်ဖိုလ်ကို ရနိုင်ပါသည်ဟု မဟာသတိပဋ္ဌာန် သုတ်တော်မှာ မြတ်စွာဘုရားရှင်က ဟောကြားတော်မူခဲ့ပါသည်။

ပါရမီမပြည့်သေး၍ ကျင့်ကြံကြိုးစားရင်း ကြိုးစားရင်း စူဠသောတာပန်ဖြင့်သာ သေလွန်သွားလျှင် နတ်ပြည်ရောက်ခါမှ မဟာသောတာပန် ဖြစ်နိုင်ပါသည်။

**အားကျစရာကောင်းသော နတ်များ**

ဘုရားတစ်ဆူ ပွင့်တော်မူတိုင်း လူ့ဘုံမှ လူသားတွေ ကျွတ်တမ်းဝင်သူတွေ နည်းပါး၏။ နတ်ပြည်မှ နတ်အများစုသာ ကျွတ်တမ်းဝင်ကြ၏။ မြတ်စွာ



ဘုရားရှင် ဓမ္မစကြာတရားဦးကို ဟောကြားစဉ် လူသား( ၅ )ဦးသာ သောတာပန် တည်၏။ နတ်ဗြဟ္မာပေါင်း (၁၈)ကုဋေထိ ကျွတ်တမ်းဝင်ကြ၏။ ထို့အတူ မြတ်စွာဘုရားရှင် ( ၄၅ )ဝါပတ်လုံး တရားတစ်ကြိမ် ဟောတိုင်းဟောတိုင်း လူပုဂ္ဂိုလ်များမှာ ခု၊ ဆယ်၊ ရာ၊ ထောင်၊ သောင်းဂဏန်းမျှကျွတ်တမ်းဝင်ကြ၏။ နတ်ဗြဟ္မာများက ကုဋေချီပြီး ကျွတ်တမ်းဝင်ကြ၏။

ကာမဂုဏ်ကို စက်ဆုပ်သော သကဒါဂါမ်နတ်များသည် အပျော်အပါး များသည့် နတ်ပြည်တွင် ဆက်၍မနေတော့ပေ။ ထိုမှစုတေကာ အနာဂါမ်အဖြစ် သုဒ္ဓါဝါသဘုံ ဗြဟ္မာပြည်သို့ ပြောင်းရွှေ့ကြ၏။ ရဟန္တာဖြစ်သွားသော နတ်များသည် နတ်ပြည်မှာ ကြာရှည်မနေတော့ဘဲ ပရိနိဗ္ဗာန်စံဝင်ကြ၏။

နတ်သူတော်ကောင်းများ၊ တရားအထုံ ပါလာကြသော စူဠသောတာပန် နတ်များသည် ဗုဒ္ဓမြတ်စွာဘုရားရှင် သက်တော်ထင်ရှားရှိစဉ်က အရိယာဖြစ်သွား ကြသော နတ်သောတာပန် အရိယာများနှင့် အပေါင်းအဖော် ပြုကြ၏။ ထို သောတာပန်၊ သကဒါဂါမ် အရိယာနတ်များကြောင့် နတ်သူတော်စင် သူတော် ကောင်းများ၊ စူဠသောတာပန်နတ်များသည် အရိယာများ ဖြစ်သွားကြ၏။

**နတ်သောတာပန် ဖြစ်ကြောင်း(၄)ဆင့်**

ထိုအကြောင်းကို တရားရပုံ ၄-မျိုးဖြင့် အင်္ဂုတ္တိုရ်ပါဠိတော်( ပ-တွဲ ) " သောတာနုဂတသုတ် "မှာ မြတ်စွာဘုရားရှင်က ဟောကြားထားပါသည်။

(၁) လူ့ပြည်မှသေလွန်ပြီး နတ်ပြည်ကို ရောက်သည့်နှင့်တစ်ပြိုင်နက် မိမိကျင့်ခဲ့သည့် နှလုံးသွင်းခဲ့သည့် တရားတွေကို အလိုလို သတိရလာပါသည်။ ထိုသို့သတိရ သည်ကာမှ နှေးပါသေးသည်။ မဂ်ဖိုလ်တရားထူးရခြင်းသည် ပို၍လျင်မြန်ပါသည်။

(၂) မိမိကိုယ်တိုင် တရားတွေကို သတိမရဘဲ မေ့နေသည့်အခါ တန်ခိုးကြီးသော ရဟန်းတစ်ပါးက နတ်ပြည်ကိုလာပြီး သုဓမ္မာ ဓမ္မသာလာမှာ တရားဟောပါသည်။ ထိုအခါ ငါ လူ့ပြည်မှာတုန်းက အားထုတ်ခဲ့သည့် တရားပါလားဟူ၍ သတိရလာပါသည်။ သတိရတာမှ နှေးပါသေးသည်။ ချက်ချင်းပင် မဂ်ဖိုလ်ကို

ရရှိနိုင်ပါသည်။

(၃) ရှေ့က ၂-ဆင့်ဖြင့် တရားမရသေးလျှင် သုဓမ္မာဓမ္မသာလာမှာ နတ်ဓမ္မကထိက၊ ဗြဟ္မာဓမ္မကထိကတွေက တရားဟောသည့်အခါ လူ့ပြည်မှာ အားထုတ်ခဲ့သည့် တရားပါလားဟူ၍ သတိရပါမည်။ ထိုသို့ သတိရခြင်းကမှ နှေးပါသေးသည်။ မဂ်ဖိုလ်ကို ရရှိသည်က ပို၍ လျင်မြန်ပါသည်။

(၄) ရှေ့က ၃-ဆင့်ဖြင့် ကျွတ်တမ်းမဝင်သေးလျှင် လူ့ဘဝက တရားဆွေးနွေးဖော်ဆွေးနွေးဘက် ဓမ္မမိတ်ဆွေက နတ်ပြည်မှာ အရင်ရောက်နှင့်နေ၏။ အရင်ရောက်နှင့်နေသော နတ်သားက လူ့ဘဝက ကျင့်ခဲ့သည့်တရားတွေကို ပြန်ပြီး အောက်မေ့နှလုံးသွင်း ဆင်ခြင်ရန် သတိပေးလိုက်ပါသည်။ ထိုအခါမှ ပြန်ပြီး နှလုံးသွင်းမိ၍ သတိရလာ၏။ ထိုသို့ သတိရတာကမှ နှေးပါသေးသည်။ မဂ်ဖိုလ်တရားထူးရသည်က ပို၍မြန်ပါသည်။

## နတ်တွေသည် ဉာဏ်ထက်သောကြောင့်

ထိုသို့ ကျွတ်တမ်းဝင်သွားကြသည့် နတ်သားအပေါင်းတို့သည် လူ့ပြည်မှာ ရှိစဉ်က အနိမ့်ဆုံး စူဠသောတာပန်ဖြစ်အောင် ပြင်းပြင်းထန်ထန် ကြိုးစားခဲ့သူများသာ ဖြစ်ပါသည်။ လူ့ပြည်မှာတုန်းကသာ ခက်ခက်ခဲခဲ ပင်ပင်ပန်းပန်း ကြာရှည်ကြာမြော ကျင့်ကြံကြိုးကုတ် အားထုတ်ခဲ့ရ၏။ နတ်ပြည်ရောက်လျှင် လူ့ပြည်လို မခဲယဉ်း မပင်ပန်းဘဲ တရားရနိုင်၏။ နတ်တွေက လူတွေထက် ဉာဏ်ပညာ အဆမတန် ကြီးမားထက်မြက်သောကြောင့် ဖြစ်၏။ အဘယ်ကြောင့်ဆိုသော် လူ့ပြည်မှာ အကျယ် (အပြည့်အစုံ) ဟော၍မဖြစ်သော အဘိဓမ္မာတရားတော် (ပဋ္ဌာန်းတရားတော်အပါအဝင်) ကို နတ်ပြည်မှာ(လူ့ပြည်အရေအတွက်) (၃)လ ဆက်တိုက်ဟောရုံဖြင့် နတ်ဗြဟ္မာအပေါင်း ကုဋေရှစ်သောင်း ရဟန္တာဖြစ်ကြ၏။ မရေမတွက်နိုင်လောက်အောင် သောတာပန်အရိယာများ ဖြစ်ကြ၏။

## စိတ်ပျက်ဖွယ် နတ်များ

လူ့ပြည်ရှိစဉ်မှာ စီးပွားရေး ကြီးပွားရေးအပြင် ဒါန သီလဖြင့်သာ ပျော်မွေ့



နေပြီး သမထ ဝိပဿနာ ဘာဝနာဘက်သို့ ပီပီပြင်ပြင် အားမထုတ်နိုင်သူများသည် သေခါနီးမှာ နှလုံးသွင်းမှန်ကန်မှုသာ နတ်ပြည်ရောက်လာကြ၏။ ထိုနတ်တို့သည် ပုထုဇဉ်နတ်များသာ ဖြစ်သည့်အတွက် အောက်ပါကဲ့သို့ စိတ်မချရသည့် အဆင့်တို့မှာ ရှိနိုင်၏။

ထိုပုထုဇဉ်နတ်တို့သည် တရားအထုံမပါ၍ တရားအားထုတ်ခြင်း မရှိကြ။ ဥပုသ်၊ သီလ၊ စောင့်ထိန်းချိန်မရ။ ထိုနတ်သား နတ်သမီးများ ပျော်ပါးနေကြ၏။ ကုသိုလ်ကံ စုဆောင်း၍ သုံးနေကြ၏။ နောက်ထပ် ကုသိုလ်ကံပြုချိန်၊ စုချိန်မရကြ။

နတ်ပြည်တွင် ဒုက္ခဆင်းရဲ အလွန်နည်းပါး၏။ အပျော်အပါး အလွန်များ၏။ ထို့ကြောင့် တရားအထုံ ပါမလာသော နတ်ပုထုဇဉ်များသည် အနိစ္စ၊ ဒုက္ခ၊ အနတ္တ တရားသဘောကို ဆင်ခြင်နိုင်စွမ်းမရှိကြပေ။ အပျော်လွန်သောနတ်များ၊ ဒေါသကြီးသောနတ်များ၊ နတ်သုဒ္ဓါစားဖို့ပင် မေ့လျော့ကာ အချိန်မတိုင်မီ စုတေ (သေ)ကြ၏။ ကုသိုလ်ကံ ကုန်သွားလျှင် အကုသိုလ်ကံကြောင့် အပါယ် (၄)ဘုံသို့ သွားကြရ၏။

ဗြဟ္မာလောကသုတ္တန်လာ ခိဍ္ဍာပဒေါသိကနတ်တို့သည် ရယ်ရွှင်ပျော်မြူး အလွန်အကျူးဖြစ်ကာ နတ်သုဒ္ဓါစားရန် မေ့လျော့ကြ၏။ ထို့ကြောင့် အချိန်မတိုင်မီ စုတေ (သေ) ကြရ၏။ ကုသိုလ်ကံကုန်သွားပြီး အကုသိုလ်ကံ အလှည့်အပြောင်း အဖြစ် အပါယ်လေးဘုံသို့ သွားကြရ၏။

## အချိန်မှီ သံဝေဂရသောနတ်

ဂေါတမဗုဒ္ဓမြတ်စွာဘုရားရှင် ပွင့်တော်မူစဉ်မှာ တာဝတိံသာနတ်ပြည်ရှိ သုဗြဟ္မာနတ်သားသည် တစ်မူထူးခြား၏။ ထိုနတ်သားသည် နတ်သမီး တစ်ထောင်နှင့် ပျော်ပါးနေ၏။ နတ်သမီးငါးရာသည် ပန်းပင်ပေါ်တက်ပြီး ပန်းပွင့်တွေ ခြွေချကာ ကျန်ငါးရာက ပန်းပင်အောက်မှာ ပန်းတွေသီကုံးပြီး ထိုသုဗြဟ္မာနတ်သားကို ပန်းပန်ပေးနေကြ၏။ ထိုစဉ်မှာပင် ပန်းပင်ပေါ်မှ နတ်သမီးငါးရာ ရုတ်တရက် သေဆုံးသွားကြ၏။ နတ်သားက အသံမကြား၍ မော့ကြည့်လိုက်ရာ ငါးရာစုံ သေသွားကြကြောင်း သိသွား၏။ နတ်မျက်စိဖြင့်ကြည့်လိုက်ရာ ငရဲကြီးမှာ ထပ်

အနက် အောက်ဆုံးအဝီစိငရဲမှာ ကျနေကြောင်း တွေ့မြင်လိုက်ရ၏။ ထိုအခါ သတိသံဝေဂရပြီး သူနှင့်ကျန်နတ်သမီးငါးရာတို့၏ နတ်သက်ကို ကြည့်လိုက်ရာ (၇)ရက်သာ ကျန်တော့ကြောင်း သိရှိတော့သည်။ ဆက်ပြီးကြည့်လိုက်ရာ နောက် (၇)ရက်ပြီးလျှင် အဝီစိငရဲကိုပင် ကျတော့မည်ဖြစ်ကြောင်း မြင်လိုက်ရာ ဖောချွေးတွေ ပြန်လာ၏။ သူတို့သည် ဝိပဿနာဘာဝနာဉာဏ် နိမ့်ပါးခဲ့ကြောင်း ဆက်၍ မြင်၏။ ထိုအခါ ဒီ(၇)ရက်အတွင်း ကယ်တင်နိုင်မည့်ပုဂ္ဂိုလ်ကို ဆက်၍ကြည့်ရာ ဂေါတမဗုဒ္ဓမြတ်စွာဘုရားရှင် ပွင့်တော်မူချိန် ဖြစ်နေ၏။

ထို့ကြောင့် ဘုရားရှင်ထံသို့ နတ်သမီးငါးရာကို အပါခေါ်ပြီး သူ၏ဒုက္ခကို ကယ်တင်ပေးပါရန် လျှောက်ထားလေတော့သည်။ မြတ်စွာဘုရားရှင်သည် ထိုနတ်သား၊နတ်သမီးငါးရာနှင့် သင့်လျော်သော တရားတော်ကို ဟောတော်မူ၏။

(၁) ဝိပဿနာဉာဏ်အလင်းဖြစ်သည့် ဓာတ်မီး (၇) ပါး

(၂) မြီးခြွေတာသည့် 'တပ'အကျင့်

(၃) မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်၊ စိတ် ဣန္ဒြေ (၆)ပါးကို ထိန်းသိမ်းစောင့်ရှောက်ရသည့် ဣန္ဒြိယသံဝရသီလ

(၄) အလုံးစုံသော ဝဋ်ဒုက္ခမှ လွတ်မြောက်ကြောင်း နိဗ္ဗာန်

တို့မှတစ်ပါး ချမ်းသာဖွယ်ရာ တခြားမရှိကြောင်း ဟောတော်မူရာ ထိုနတ်သားနှင့် နတ်သမီးငါးရာတို့သည် ဝိပဿနာဉာဏ်အလင်းရကာ သောတာပတ္တိမဂ်၊ ဖိုလ်သို့ ဆိုက်ရောက်လေတော့သည်။ (နတ်တို့သည် ဉာဏ်ထက်မြက်ကြ၏။ ယခင်က ဝိပဿနာဉာဏ် မရင့်သန်ခဲ့သော်လည်း တစ်ထိုင်တည်းဖြင့် တရားရကြ၏။)

ထိုသူတို့ အပါယ်ငရဲမှလွတ်ကာ အရိယာဖြစ်သွားရခြင်းမှာ ရှေ့က ငါးရာ၏ ဒုက္ခကို သံဝေဂယူပြီး အချိန်မှီ ပြင်နိုင်သောကြောင့်လည်းကောင်း၊ မြတ်စွာဘုရားရှင် ပွင့်တော်မူစဉ်ကာလ ဖြစ်နေ၍လည်းကောင်း၊ ဂတိအဆိုးမှ



ဂတိအကောင်းဘက်လှည့်သွားရ၏။ ထို့ကြောင့် ကျွတ်တမ်းဝင်ကြရခြင်း ဖြစ်သည်။

## ကျီးကန်းနှင့်လောက်ကောင်

နောက်ဥပမာတစ်ခု ရှိသေး၏။ နတ် (၂) ဦးသည် နောက်ဘဝမှာ တစ်ဦးနှင့် တစ်ဦး ကယ်တင်ကြစတမ်း ဟူ၍ ကတိကဝတ်ပြုခဲ့ကြ၏။ ထိုနတ် (၂) ဦး စုတေ(သေ)သွားကြသည့်အခါ တစ်ဦးက ကျီးကန်းဖြစ်ပြီး ကျန်တစ်ဦးက လောက်ကောင် ဖြစ်သွား၏။ ထိုအခါ ကျီးကန်းက မစင်ပုံကြီးထဲရှိ ပိုးလောက်ကလေးကို ဤသို့ပြော၏။ "အလွန်ရှုံရှာဖွယ်ကောင်းသည့် ပိုးလောက်ကောင်ဘဝကို ကယ်တင်ရန် ကျွန်ုပ်ထိုးသုတ်ပြီးစားလိုက်မည်၊သို့မှသာ ယခုမစင်ပုံထဲက ပိုးလောက် ဘဝထက် မြင့်မြတ်သော တခြားဘဝကို ရောက်ရှိနိုင်မည်" ဖြစ်ကြောင်း ဖျောင်းဖျလိုက်၏။

ထိုအခါ ပိုးလောက်ကောင်က "ကျွန်ုပ်သည် အသင်ငှက်ကဲ့သို့ အစာရှာရန် မလို၊ စားမကုန်လောက်အောင် ပေါများလှ၏။ နေထိုင်ရန်လည်းမပူရ၊ အပေါင်း အဖော်အခြွေအရံကလည်းများလှ၏။ မစင်ပုံထဲမှာ ကျွန်ုပ်ဘဝကိုကျွန်ုပ် အလွန်ပျော်၏။ ကယ်တင်ရန် မလို" ဟူသတည်း။

ပုထုဇဉ်နတ်တို့သည် ရောက်ချင်ရာရောက် ပေါက်ချင်ရာပေါက်သွားကြရ၏။ စိတ်ပျက်ဖွယ် အလွန်ကောင်း၏။ ကြောက်စရာလည်း ကောင်း၏။

## မသိခြင်း ( ၅ ) ပါး

ထို့ကြောင့် ပုထုဇဉ်မှန်သမျှ ကြိုတင်မသိနိုင်သော အရာငါးမျိုးရှိသည်ဟု ဝိသုဒ္ဓိမဂ်အဋ္ဌကထာမှာ ပြဆိုထား၏။

(၁) ဇီဝိတ = ဘယ်အသက်အရွယ်မှာ သေရမည်ကို ကြိုတင်မသိနိုင်ပါ။

(၂) ဗျာဓိ = ဘယ်အနာရောဂါဖြင့် သေရမည်ကို ကြိုတင်မသိနိုင်ပါ။

(၃) ကာလ = နံနက်၊နေ့လယ်၊ ည ဘယ်ကာလမှာ သေရမည်ကို ကြိုတင်မသိ နိုင်ပါ။

(၄) ဒေဟနိက္ခေပနံ = ဘယ်နေရာ၊ ဘယ်ဒေသမှာ သေမည်၊ ဘယ်သုသာန်

မှာ သင်္ဂြိုဟ်ရမည်ကိုလည်း ကြိုတင်မသိနိုင်ပါ။

(၅) ဂတိ = ဘယ်ဘုံရောက်မည်ကိုလည်း ကြိုတင်မသိနိုင်ပါ။

ထို့ကြောင့် ပုထုဇဉ်လူသားတို့သည် ပညာရေးလည်း ကြိုးစားရမည်။ စီးပွားရေးလည်း ကြိုးစားရမည်။ မိဘ၊ဆရာတို့အား ကျေးဇူးဆပ်ဖို့လည်း ကြိုးစားရမည်။ ( အိမ်ထောင်ရှိလျှင် ) သားမယား တာဝန်လည်း ကျေပွန်အောင် ကြိုးစားရမည်။ အလှူဒါနလည်းပြု၊ သီလလည်း ဆောက်တည်ရမည်။ ဤမျှဖြင့်မင် ရပ်တန့်မနေဘဲ ရိုးရိုးပုထုဇဉ်ဘဝမှ အနိမ့်ဆုံး စူဠသောတာပန်ထိ ဖြစ်အောင် သမထဘာဝနာလည်း ကျင့်ကြံရပါမည်။ ''ငယ်ရွယ်စဉ်ခါ ပညာရှာ၊ အရွယ်လတ်မှာ စီးပွားရှာ၊ အသက်ကြီးမှ တရားရှာ'' ဆိုသည်မှာ မှားယွင်းနေ၏။ ပညာရှာရင်းလည်း တရားကျင့်ရမည်။ စီးပွားရှာရင်းလည်း တရားကျင့်ရမည်။ အနားယူလျှင် ( ပင်စင်ယူလျှင် )လည်း တရား ဆက်လက် ကျင့်ကြံရပါမည်။

## ကောင်းကံနှင့်လွဲသော မဟာဓနသူဌေးသား

ဂေါတမမြတ်စွာဘုရားရှင် လက်ထက်က ကုဋေ (၈၀) ကြွယ်ဝသော မဟာဓနသူဌေးသားဇနီးမောင်နှံ ရှိခဲ့၏။ သူတို့သည် ပါရမီရှိပါလျက် အပေါင်းအဖော်များယွင်း၍ အရက်သေစာ သောက်စားပြီး အပျော်ကျူးရာမှ တောင်းစားရသော ဘဝကို ရောက်ခဲ့ရသည်။ မဂ်ဖိုလ်နှင့်လည်း လွဲခဲ့ရသည်။

မြတ်စွာဘုရားရှင် ဆွမ်းခံထွက်ချိန်မှာ ထိုသူဌေးသားဇနီးမောင်နှံကို ကြည့်ပြီး ပြုံးတော်မူသဖြင့် အရှင်အာနန္ဒာမထေရ်က မေးလျှောက်ရာ ဤသို့မိန့်တော်မူ၏။

''ဤသူဌေးသား သည် ပထမအရွယ်မှာ တရားအားထုတ်လျှင် ရဟန္တာဖြစ်နိုင်၏။ ဒုတိယအရွယ်မှာ အားထုတ်လျှင် အနာဂါမ်ဖြစ်နိုင်၏။ တတိယအရွယ်မှာ အားထုတ်လျှင် သကဒါဂါမ် ဖြစ်နိုင်၏။ ယခု လူယုတ်မာတို့နှင့် ပေါင်းမိခဲ့၍ ပါရမီရှိပါလျက် မဂ်ဖိုလ်နှင့်လွဲခဲ့ရပြီ ''ဟု မိန့်တော်မူခဲ့သည်။

## ဗုဒ္ဓဘာသာဝင်တိုင်းအတွက် ပါရမီကုသိုလ်

တချို့ ဗုဒ္ဓဘာသာဝင်တို့ သေသွားကြသည်။ တရားအားမထုတ်ခဲ့ကြ



ရှာပေ။ အကယ်၍ ပါရမီပြည့်နေသူ ဖြစ်ပါက ဆုံးရှုံးမှုကြီး ကြီးမားလေစွ။ ပါရမီရှိပါလျက် တရားအားထုတ်ရမှန်း မသိဘဲ သေသွားကြသူ အမြောက်အမြားသည် လူဖြစ်ရှုံးကြလေ၏။ ပြုလုပ်ခဲ့သမျှ ကုသိုလ်ကောင်းမှုတို့သည် ''ဗောဓိဉာဏ်၊ မဂ်ဉာဏ်၊ဖိုလ်ဉာဏ် ရရှိရေးအတွက် ဖြစ်ပါစေ၊ နိဗ္ဗာန်ရရှိရေးအတွက်သာ ဖြစ်ပါစေ''ဟု အာရုံမှန်းပြီး စိတ်ထားတတ်မှ ပါရမီကုသိုလ် ဖြစ်ပါသည် ။ ဗောဓိဉာဏ်နှင့် နိဗ္ဗာန်ကို မမျှော်မှန်း မရည်စူးပါက သာမန်ကုသိုလ်သာ ဖြစ်ပါသည်။ ( သာမာန်ကုသိုလ်သည် နတ်ပြည်ရောက်နိုင်သလို အပါယ်ငရဲလည်း ကျဦးမည် သေချာ၏ ။ ) ပါရမီကုသိုလ်ဖြစ်ရန် လေးလေးနက်နက် ကျင့်ကြံနိုင်မှသာ ပုထုဇဉ်ဘဝမှ လွတ်မြောက် (လွန်မြောက်)နိုင်ပါမည်။

## ဗောဓိဉာဏ်၊ မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်၊ နိဗ္ဗာန်

''ဗောဓိဉာဏ်၊ မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်၊ နိဗ္ဗာန်'' ဆိုသည်နှင့် ဘုရား၊ရဟန္တာ သံဃာနှင့်သာ ဆိုင်သည်ဟု ထင်မှတ်မှားနေကြ၏။ ပညာရေး၊ စီးပွားရေး၊ ကြီးပွားရေး၊(နောက်ဆုံး) အိမ်ထောင်ရေး၊ နိုင်ငံကောင်းစားရေး --------- အရေးတွေနှင့် ရှုပ်နေကြရသော ပုထုဇဉ်လူသားတွေနှင့်လည်း သက်ဆိုင်ပါသည်။ ရဟန်း၊သံဃာတော်များသည် ဗုဒ္ဓသာသနာရေး တစ်လိုင်းတည်းသွား ဖြစ်သည့်အတွက် ရဟန္တာအထိ မျှော်မှန်းပြီး ကြိုးစားအားထုတ်သူများ ဖြစ်နိုင်ပါသည်။ ပုထုဇဉ် လူသားများကဖြင့် စူဠသောတာပန်၊ မဟာသောတာပန်ထိ မျှော်မှန်း ကြိုးစားပါလျှင်လည်း (အနိမ့်ဆုံး) ဗောဓိဉာဏ်၊ မဂ်ဉာဏ်၊ ဖိုလ်ဉာဏ် ရနိုင်ပါမည်။

ရဟန္တာဖြစ်မှ ''နိဗ္ဗာန်'' ရောက်မည်မဟုတ်ပါ။ သောတာပန်ဖြစ်လျှင်လည်း (သောတာပန်) နိဗ္ဗာန်အဆင့်ကို မျက်မှောက်ပြုနိုင်ပါသည်။ ရဟန္တာသည် ပရိနိဗ္ဗာန်ပြုသည်နှင့် နိဗ္ဗာန်ရောက်မှာ သေချာ၏။ သောတာပန်သည်လည်း နိဗ္ဗာန်ရောက်မှာ သေချာ၏။ သို့သော် တစ်ဘဝခြားနှင့် ( ၇ ) ဘဝမြောက်သာ ကွာခြားပါသည်။

ပုထုဇဉ်လူသားတို့သည် ''နိဗ္ဗာန်''ဆုကို ဝတ်ကျေတမ်းကျေ တောင်းနေကြ၏။ မိရိုးဖလာဗုဒ္ဓဘာသာအရ ဆရာတော်များက ရေစက်ချပေး၍သာ''နိဗ္ဗာန်ကိုလျင်မြန်စွာ

ရောက်ရပါလို၏''ဟု ဆိုနေကြရသည်။ ရင်ထဲနှလုံးသားထဲမှ တကယ်လိုချင်၍ မဟုတ်ကြတာ များ၏။ (အနိမ့်ဆုံး) သောတာပန်သည်လည်း နိဗ္ဗာန်ကို မျက်မှောက် ပြုရမှန်း သိကြပါလျှင် တွန့်နေကြမည် မဟုတ်ပါ။ (ထပ်မံပြောရလျှင်) ပုထုဇဉ် လူသားတိုင်း ( ပဉ္စာနန္တရိယကံ မထိုက်ခဲ့လျှင် ) စူဠသောတာပန်ဖြစ်ရန် ပါရမီပြည့်ပြီးသားဖြစ်ကြောင်း နားလည်ယုံကြည်ရပါမည်။ လူဖြစ်လာတာကိုက သောတာပန်ဖြစ်ရန် စာမေးပွဲဖြေဖို့ ရောက်လာခြင်းဖြစ်ကြောင်း သိနားလည်ရပါမည်။

## လူတိုင်း တရားစခန်း ဝင်သင့်သည်

ထို့ကြောင့် ပုထုဇဉ်ဘဝမှ လွန်မြောက်လိုသူများ (အပါယ်ငရဲမှ အပြီးတိုင် လွတ်မြောက်လိုသူများ) အနိမ့်ဆုံး စူဠသောတာပန်ဖြစ်အောင် တရားကျင့်ရပါမည်။ မြန်မာပြည်ရှိ ဗုဒ္ဓဘာသာဝင်များ ( ဗုဒ္ဓဘာသာဝင် မဟုတ်သူများပါ ) အခွင့်ထူး အခါထူးအချိန် ရောက်နေ၏။ မြို့နေ၊ တောနေလေ့အောင်း၊ မြင်းဖောင်းမကျန် တရားစခန်းတွေ ပျံ့နှံ့နေ၏။ မိမိနှင့်သင့်လျော်မည် ထင်ရသော တရားစခန်းများမှာ ( ၇ )ရက်၊ ( ၉ )ရက်၊ (၁၀)ရက်..... စသည်ဖြင့် တရားတစ်ကြိမ် ဝင်ထိုင်ရပါမည်။ တစ်ကြိမ်ဝင်လျှင် အနည်းငယ်ဖြင့် တရားထူးရမှ ဖြစ်ပါမည်။ သိပ်ပြီး မသေချာသေးလျှင် (၂)ကြိမ် (၃)ကြိမ် တရားစခန်း ဝင်ရပါမည်။ အထူးအားထုတ် ကြိုးကုတ်ပါလျက် တရားထူးကို (အနည်းငယ်မျှပင်) ကိုယ်တွေ့ဉာဏ်မြင် မထိရောက်ပါလျှင် ထိုယောဂီနှင့် တရားနည်း အံမဝင် ( အံချော်နေပြီ )ဟူ၍ သဘောပေါက်သင့်ပါသည်။ (၁)ကြိမ်၊ (၂) ကြိမ်၊ (၃)ကြိမ်ခန့်မှ ကြိုးစားပမ်းစား တရား အားထုတ်ပါလျက် စာသားတွေသာ ရနေပြီး မိမိကိုယ်တိုင်ဉာဏ်ထဲမှာ သက်ရောက် မနေဘူးဆိုလျှင် '' လွဲနေပြီ '' ဟူ၍သာ ယူဆရပေတော့မည်။ မြတ်စွာဘုရားရှင် သက်တော်ထင်ရှား ရှိစဉ်က ယောဂီ၏ စရိုက်လက္ခဏာကို ကြည့်ကာ ကမ္မဋ္ဌာန်းနည်းကို ပြောင်းလဲပေးခဲ့ရ၏။ ယခု မြတ်စွာဘုရားရှင်၏ တရားတော်၊ သားတော် သံဃာတော်များခေတ်မှာ မိမိကိုယ်တိုင် တရားစခန်း ပြောင်းရပေတော့မည်။



သမထယာနိကနည်း ၊ ဝိပဿနာယာနိကနည်း၊ ယုဂနဒ္ဓနည်းအစရှိသဖြင့် မိမိနှင့် သင့်လျော်မည့် နောက်ထပ်တရားစခန်း တစ်နေရာကို ပြောင်းရွှေ့ အားထုတ်ကြည့်ရပါမည်။ တစ်ကြိမ်ဖြင့် မရသေးလျှင် ထားဦး၊ သုံးကြိမ်မြောက် လောက်ကျင့်လျှင် နာမရူပပရိစ္ဆေဒဉာဏ်နှင့် ပစ္စယပရိဂ္ဂဟဉာဏ်တို့ထိ ရောက်သင့်ပါသည်၊ ဤသို့ရောက်ပြီဆိုလျှင် ယောဂီနှင့်တရားနည်း အံဝင်ပြီဟူ၍ ယုံကြည်အပ်ပေသည်။ ဆက်လက်၍ ကြိုးစားရုံသာ ရှိ၏။ စူဠသောတာပန်မှသည် မဟာသောတာပန် အထိရောက်အောင် အထူး (အထူး) အားထုတ်ရပေတော့မည်။

## သောတာပန်ချမ်းသာ

(သောတာပတ္တိမဂ်ဆိုက်ပြီးသော ပုဂ္ဂိုလ်အကြောင်းကို လယ်တီဆရာတော်ဘုရားကြီး၏ ကမ္မဋ္ဌာန်းကျမ်းကြီးမှ ကောက်နုတ်တင်ပြပါမည်။)

သောတာပန်ဆုပန် ပုဂ္ဂိုလ်သည် သောတာပတ္တိမဂ်သို့ ဆိုက်ရောက်သောအခါ အတိတ်ကံဆိုးကံညံ့ အနန္တတို့သည် အကုန် ချုပ်ငြိမ်းလေတော့သည်။ သံသရာအဆက်ဆက်မှ ပါလာခဲ့သည့် အသင်္ချေယျအနန္တ ကံဆိုး၊ ကံညံ့၊ အကုသိုလ်ကံဟောင်းတို့သည် အကုန် ဓာတ်သိမ်းလေတော့သည်။ အပါယ်သံသရာကြီးသည်လည်း ထိုပုဂ္ဂိုလ်၏ သန္တာန်မှာ အားလုံး အကုန်အစင် ဓာတ်သိမ်းလေကုန်၏။ ပုထုဇဉ် လူမင်း၊ နတ်မင်း၊ ဗြဟ္မာမင်းတွေပင် ဖြစ်နေလင့်ကစား အပူကောင်သက်သက်သာ ဖြစ်သည့်အတွက် သောတာပန်ပုဂ္ဂိုလ်ကဲ့သို့ မငြိမ်းချမ်း၊ မအေးချမ်းနိုင်သေးပေ။ ပုထုဇဉ်ဖြစ်သော လူမင်း၊ နတ်မင်း၊ ဗြဟ္မာမင်းတို့၏ ချမ်းသာသည် အတက်အကျရှိ၏၊ အတက်ပြီးလျှင် အကျဘက်သို့ ရောက်ရ၏။ ကျပြီးလျှင် (လိပ်ကန်းဥပမာအရ) ပြန်တက်ဖို့ အလွန်ခဲယဉ်းလှ၏။ သောတာပန်ချမ်းသာသည် အတက်သာရှိ၏။ အကျလုံးဝမရှိပေ။ တက်ပြီးရင်းတက် ချမ်းသာပြီးရင်း ချမ်းသာရ၏။ ဆင်းရဲဒုက္ခတို့သည် ဝေးသထက် ဝေးသွားရ၏။ ချမ်းသာမှု အသေးမှ အလတ်၊ အကြီးတို့ကိုသာ ကျော်ဖြတ်ရ၏၊ နောက်ဆုံးမှာ ဆင်းရဲတို့ ချုပ်ငြိမ်းရာ သန္တိသုခ နိဗ္ဗာန်ချမ်းသာသို့သာ ဆိုက်ရောက်ရလေတော့၏။

## ဗုဒ္ဓသာသနာနှစ် (၅၀၀၀) ကျော်လွန်သွားလျှင်

လူပြည်၊ နတ်ပြည် ------ တို့မှာ ဂေါတမမြတ်စွာဘုရားရှင်၏ ဗုဒ္ဓသာသနာတော် ကွယ်ပျောက်သွားနိုင်သည်။ သို့လင့်ကစား သောတာပန် ဖြစ်ပြီးသူ လူ၊ နတ်၊ ဗြဟ္မာတို့မှာက ဘဝအဆက်ဆက် ကမ္ဘာအဆက်ဆက် ( ၇ )ဘဝအထိ ကျင်လည်နေသမျှ အနမတဂ္ဂ ကြီးကျယ်လှသော နိဗ္ဗာန်ချမ်းသာကြီးကို အစဉ် စံစားနေကြရ၏။ ပရိနိဗ္ဗာန်စံဝင်ရာ ဘဝတိုင်အောင် သာသနာပ ဘဝ၊ သာသနာ့ပ ကမ္ဘာ ဟူ၍ သောတာပန်ပုဂ္ဂိုလ်မှာ မရှိကြကုန်တော့ပေ။ မိမိတို့ရပြီး ရောက်ပြီး နိဗ္ဗာန်ကြီး၏အတွင်းမှာ ဘဝများစွာ ကမ္ဘာအဆက်ဆက် မထွက်ကြရတော့ပေ။ ထိုနိဗ္ဗာန်ကြီး၏ အတွင်း၌တည်၍ အလိုရှိရာ လူချမ်းသာ၊ နတ်ချမ်းသာ၊ ဗြဟ္မာ ချမ်းသာတို့ကို ခံစား၊ စံစားကြကုန်ပြီးမှ အားရကြသောအခါမှ ခန္ဓာကို စွန့်ပစ်ကြကုန်လေ၏။ (''အဘိသမယ သံယုတ်ပါဠိတော်ကြီး''အရဖြစ်ပါသည်။)

သောတာပန်ပုဂ္ဂိုလ်တို့သည် ဒိဋ္ဌိ၊ ဝိစိကိစ္ဆာတို့ ချုပ်ငြိမ်းပြီး ဒုစရိုက်ကံ တို့လည်း ချုပ်ငြိမ်းလေသောကြောင့် အပါယ်သံသရာကြီးလည်း ချုပ်ငြိမ်းကာ ''သဉပါဒိသေသနိဗ္ဗာန်''သို့ တည်နေကြလေ၏။ ထို့ကြောင့်ပင် အပါယ်(၄)ပါး ဟူသော ဒုဂ္ဂတိသံသရာ မရှိကြလေသည့်အတွက် ဘုန်းတန်ခိုး ကျက်သရေနှင့် ပြည့်စုံသော လူ့ဘဝ၊ နတ်ဘဝ၊ ဗြဟ္မာဘဝဟူသော ဉပါဒိတရားရှိနေသည့် ''သဉပါဒိသေသ'' ဟူသော ဘဝခန္ဓာသံသရာ အကြွင်းအကျန်ဖြင့် စံစားနေကြလေ၏။ ထို 'သဉပါဒိသေသ'နိဗ္ဗာန်မှသည် 'အနုပါဒိသေသ'နိဗ္ဗာန်သို့ စံမြန်းကြရမည် ဖြစ်သောကြောင့်'အသင်္ခတမဟာနိဗ္ဗာန်ကြီး'နှင့် အတူတူပင် ဖြစ်ပေတော့သတည်း။

လူသားအားလုံး မမေ့မလျော့သော သတိတရားဖြင့် ကိစ္စခပ်သိမ်း ပြီးပြည့်စုံအောင် တရားအားထုတ်နိုင်ကြကာ ဒီဘဝမှာပင် စူဠသောတာပန်မှသည် မဟာသောတာပန်အထိ ဖြစ်အောင် ကျင့်ကြံနိုင်ကြပါစေသတည်း။



မြန်မာသက္ကရာဇ် ၁၃၇၃ ခု၊ ကဆုန်လပြည့်နေ့။ ခရစ်နှစ် ၂၀၁၁ ခု၊ မေလ။ ဗုဒ္ဓနှစ် ၂၆၀၀ ပြည့်နှစ် (၄၅ ဝါ + သာသနာနှစ် ၂၅၅၅)မှာ လူဖြစ်ကျိုး နပ်လိုသူတိုင်း ကျွတ်တမ်းဝင်မည့် ခေတ်တစ်ခုအဖြစ် အပြောင်းအလဲ ကြီး ပြောင်းလဲမည်ဟု ယုံကြည်လျက်

S.S ခင်မောင်အေး

## စာရေးသူ၏ အတ္ထုပ္ပတ္တိအကျဉ်း

စာရေးသူသည် ၁၉၅၇ ခု၊ စက်တင်ဘာ (၁၅)ရက်နေ့တွင် ပခုက္ကူမြို့၊ ဗိုလ်ချုပ်လမ်းမှာ(ဦးအုန်းမြင့်) + ဒေါ်အေးကြင်တို့မှ မွေးဖွားခဲ့ပါသည်။ ၁၉၇၅ခု တက္ကသိုလ်ဝင်စာမေးပွဲမှာ သင်္ချာ၊ ဓာတု၊ ရူပ (၃)ဘာသာမှာ အမှတ် ၁၀၀၊၉၀ ဝန်းကျင်တို့ဖြင့် ထူးချွန်စွာ အောင်မြင်ခဲ့သည်။ ရန်ကုန်တက္ကသိုလ်မှာ သိပ္ပံပညာ ရည်ချွန်ထူးချွန်ဆု (*S.S* Science Schalarship )ဖြင့် တိုက်ရိုက်တက်ခွင့်ရခဲ့သည်။ ဘွဲ့ရပြီး ပခုက္ကူမြို့မှာ ကိုယ်ပိုင်နည်းပြသင်တန်း တည်ထောင်ခဲ့သည်။ (၉၀) ခုနှစ်မှစ၍ ရန်ကုန်မြို့တော်မှာ *S.S* ခင်မောင်အေး (သင်္ချာ) နည်းပြဆရာ၊ *S.S* ဘော်ဒါ၊ *S.S* ခင်မောင်အေး (သင်္ချာ) စာအုပ်များ၊ ပညာဗိမာန်စာအုပ်တိုက် တည်ထောင်ကာ ဖြန့်ချိခဲ့ပါသည်။

**အလှူငွေ(အရင်းငွေ) ဖြင့် ရေးသားထုတ်ဝေသော တရားစာအုပ်များ**

၁။ (၂၈)ဆူ ဗုဒ္ဓဝင်ပိုစတာ
၂။ (၂၈)ဆူ ဗုဒ္ဓဝင်နှင့်ရှင်းချက်များစာအုပ်
၃။ ရောင်စုံရုပ်ပြပဋ္ဌာန်းနှင့် ၂၄ ပစ္စည်း ရှင်းချက်များ
အိတ်ဆောင်ဆိုဒ်၊ ဝတ္ထုဆိုဒ်၊ မဂ္ဂဇင်းဆိုဒ်စာအုပ်များ
၄။ ရောင်စုံရုပ်ပြပဋ္ဌာန်းနှင့် ၂၄-ပစ္စည်းရှင်းချက်များ ဗီနိုင်းပိုစတာ
၅။ သောတာပန်ဆုပန်ချမ်းသာမှုစံ စာအုပ်
၆။ မြတ်စွာဘုရား ရောင်ခြည်တော် ဂုဏ်တော် (၉)ပါး ပိုစတာ
၇။ လူဖြစ်ကျိုးနပ်ဖို့ သောတာပန်သို့ စာအုပ်
၈။ အ တုလ ဗုဒ္ဓမြတ်စွာဘုရား ပိုစတာ၊ ကဒ်ပြား
၉။ ထိခြင်းငါးပါးဖြင့် ရှိခိုးဦးချ ကန်တော့ပုံ
(အမျိုးသား၊အမျိုးသမီး) ပိုစတာ
၁၀။ ဗုဒ္ဓမြတ်စွာဘုရား ခြေတော်ရာ ပိုစတာ၊ ကဒ်ပြား (မြန်မာ၊အင်္ဂလိပ်)
၁၁။ THE ILLUSTRATED PATHĀNA
(ရောင်စုံရုပ်ပြပဋ္ဌာန်း အင်္ဂလိပ်ဘာသာပြန်)





## မှီငြမ်းကျမ်းများ

၁။ ပိဋကတ် (၃)ပုံ မြန်မာပြန် အင်္ဂုတ္တိုရ် (ပ)တွဲ
၂။ လယ်တီဒီပနီ ကျမ်းပေါင်းချုပ် (ပ၊ဒု၊တ၊စ) တွဲများ
၃။ လယ်တီကမ္မဋ္ဌာန်းကျမ်းကြီး
၄။ တိပိဋကဆရာတော် ဦးဝိစိတ္တ၏ မဟာဗုဒ္ဓဝင်ကျမ်း (ဒု)တွဲ
၅။ သာသနာရေးဦးစီးဌာနမှ ဗုဒ္ဓဘာသာလက်စွဲကျမ်း (ပ၊ဒု)တွဲ
၆။ နှစ်ဖက်လှ ဦးကျော်လွင်၏ ဗုဒ္ဓဘာသာ လူ့ထက်လူ
၇။ နှစ်ဖက်လှ ဦးကျော်လွင်၏ ရှုဋ္ဌသောတာပန်
၈။ အဘိဓမ္မာ (၃)ဆင့် သင်တန်းမှတ်စုများ
၉။ ဤစာအုပ်၏ ရှေ့ပိုင်း ၂၀%ခန့်သည် ''သောတာပန်ဆုပန်ချမ်းသာမှုစံ''
စာအုပ်မှ တချို့ကို ချုံ့ပြီး ပြုပြင်ဖြည့်စွက်ထားပါသည်။

> တစ်ဖက်ပါ ပိုစတာနှင့် စာအုပ်များကို
> ၂၀၁၀ ခုနှစ် ဇန်နဝါရီ ၁၅ရက်နေ့မှ စ၍
> www.sskhinmaungaye.com
> အင်တာနက်ဝက်(ဘ်)ဆိုက်တွင်
> နမူနာ စာမြည်း ၊ နမူနာပုံများအား
> ဝင်ရောက် ကြည့်ရှုနိုင်ပါကြောင်း သတင်းကောင်းပါးအပ်ပါသည်။

## “ နှစ်ကျိပ်ရှစ်ဆူ ဗုဒ္ဓဝင်နှင့် ရှင်းလင်းချက်များ”

* သမ္မုဒ္ဓေါ်ထာကို ရွတ်ပတ်ပူဇော်သောကြောင့် အန္တရာယ်ကင်းဘေးရှင်းကြောင်း ဗုဒ္ဓဘာသာဝင်တိုင်း သိထားကြသော်လည်း ဘုရားဟောစစ်စစ် ၂၈-ဆူဗုဒ္ဓဝင်ကို ပူဇော်ကြပါလျှင် အဆမတန် အကျိုးကြီးမားကြောင်းသိရှိသူ ဗုဒ္ဓဘာသာဝင် နည်းပါးနေပါသေးသည်။

* ၂၈-ဆူဗုဒ္ဓဝင်ကို သာမန်သိထက်အသိဉာဏ်ဖြင့် နားလည်သဘောပေါက်စေရန် (၁) မတူကမ္ဘာ၊ (၂) ခေတ်သိပ္ပံပညာရှင်များအလိုအရ လူ့သက်တမ်းတိုလာရခြင်းအကြောင်းရင်းများ၊ (၃) ဗုဒ္ဓနည်းကျလူ့သက်တမ်းတိုလာရခြင်း အကြောင်းရင်းများ၊ (၄) ကမ္ဘာရေတွက်ပုံ၊ (၅) မဟာကပ် နှစ်မျိုး၊ (၆) တစ်ကမ္ဘာ၏ သက်တမ်းကို နှစ်ဖြင့်မှန်းဆခြင်း၊ (၇) သမ္မုဒ္ဓေါ်ထာမှ ၅သိန်း ၁-သောင်း ၂-ထောင် ၂၈-ဆူ၊ (၈) ဘုရားလောင်း ၃ မျိုး၊ (၉)ဒုက္ကရစရိယာ ၆နှစ်ကျင့်ရခြင်းအကြောင်း၊ (၁၀)ဂေါတမမြတ်စွာဘုရား သက်တော် ၈၀-ဖြစ်ရခြင်း၊ (၁၁) ဆုတ်ကပ်မှာသာ ဘုရားပွင့်နိုင်၊ (၁၂) သက်တမ်း ၁-သိန်း နှင့် ၁၀၀-ကြားသာ ဘုရားပွင့်၊ (၁၃) ပါရမီကံ အဆောက်အအုံရင့်ပါမှ ဘုရားပွင့် (၁၄) ဂေါတမမြတ်စွာဘုရားသည် အနှစ် ၁-သောင်းတမ်းတွင် ပွင့်ထိုက်သည်ဆိုသော်လည်း၊ (၁၅) ဘဒ္ဒကမ္ဘာတွင် ဆုတ်ကပ်တို့မှာ ဘုရားပွင့်ပုံကို ပုံဖြင့်ပြရလျှင်၊ (၁၆) မြတ်စွာဘုရားတို့ အသက်တော်ရှည်ခြင်း ၊ တိုခြင်း အကြောင်းအရင်း ၊ (၁၇) ဂေါတမမြတ်စွာဘုရားထံ အရိမေတ္တေယျဘုရားလောင်းနိယတဗျာဒိတ်ရပုံ၊ (၁၈) အရိမေတ္တေ ယျဘုရားကိုဖူးခွင့်ရမည့်သူများ၊ (၁၉)နောက်ပွင့်မည့်ဘုရားကို မျှော်ရှုံသက်သက်ပြင့်မရ၊ (၂၀) အရိမေတ္တေယျဘုရားပွင့်ပြီးသော်၊ (၂၁) ဘဒ္ဒကမ္ဘာအပြီး ကမ္ဘာ ၁-သိန်းကျော်လွန်မှဘုရား ၂-ဆူ၊ ၁-ဆူ စသည်တို့ပွင့်မည်၊ (၂၂) ဂေါတမဗုဒ္ဓ၏အရပ်တော် ၁၈-တောင် ဖြစ်ရခြင်းအကြောင်းရင်း၊ (၂၃) ဘုရားမပွင့်ခဲ့သော အသင်္ချေနှင့် ကမ္ဘာများ၊(၂၄) ဘုရားလောင်းတို့မည်သည် နတ်ပြည်၌ ကြာရှည်မနေ၊ (၂၅) ဇာတိဉာဏ် ၃-ဆင့်၊ (၂၆) သာဝက ၃ဆင့်၊ (၂၇)ဗျာဒိတ်ရခြင်းအင်္ဂါ ၈-ပါး၊ (၂၈)ပုထုဇဉ် ဦးနှောက်ဖြင့်လိုက်၍မမှီနိုင်၊ (၂၉) လူ့တိုင်းဝရဲပြည်မကျဖူးသူ မရှိခဲ့၊ (၃၀) လူ၊ နတ်၊ ဗြဟ္မာ၊ ငရဲ၊ တိရစ္ဆာန် သတ္တဝါအားလုံး ဆွေမျိုးတော်ခဲ့ဖူးကြ၊ (၃၁) အခုခေတ်လူသားတွေဟာ နတ်မျက်စိ၊ နတ်နားများ ရရှိနေပြီ။ သို့သော် . . စသည်တို့ဖြင့် ရှင်းလင်းထားပုံတို့သည် တိုတိုနှင့်လိုရင်းကိုထိရောက်စေပါသည်။

| | | | |
|---|---|---|---|
| နှစ်ကျိပ်ရှစ်ဆူစာအုပ်တစ်အုပ် | ၂၀ဝိ/ | - | ( မြန် ၁၅ဝိ/- ) |
| နှစ်ကျိပ်ရှစ်ဆူဗုဒ္ဓဝင် ပိုစတာအကြီး | ၃၀ဝိ/ | - | ( မြန် ၂၅ဝိ/- ) |
| နှစ်ကျိပ်ရှစ်ဆူဗုဒ္ဓဝင် ပိုစတာအသေး | | | ( မြန် ၃၅/- ) |



စူဠသောတာပန်၏ ဖြစ်စဉ်




စူဠသောတာပန်၏ အောင်မြင်မှု

